# မြန်မာစကားပုံ

# အဘိဓါန်

လှသမိန် * ပြုစုသည်

အက္ခရာစဉ်ကျနစွာဖြင့်
စကားပုံ
၃၀၀၀
ခန့်ပါဝင်သည်



# မြန်မာစကားပုံ အဘိဓာန်

လှသမိန်
ယဉ်ကျေးမှုဌာန အထက်တန်းအရာရှိ
ရှေးဟောင်းစာပေဌာန

ပြုစု၍

ဦးဖိုးလတ်
ယဉ်ကျေးမှုဝန်ကြီးဌာန အတွင်းဝန်ဟောင်း

တည်းဖြတ်သည်။

၁၃၁၇–၁၉၅၅

အဖိုး ၂–၅၀ ပြား

ပညာနန္ဒပုံနှိပ်တိုက်
၇၅၊ (က) အင်းယားမြိုင်လမ်း၊ တက္ကသိုလ်ရိပ်သာ၊ ရန်ကုန်မြို့။

# နိဒါန်း

မြန်မာစာပေလောကတွင် မြန်မာစကားနက်အဘိဓာန်၊ ခွဲထားအဘိဓာန်၊ သတ်ပုံနှင့် စာလုံးပေါင်းအဘိဓာန်၊ ပေါရာဏအဘိဓာန်၊ ပညာရပ်ဆိုင်ရာဝေါဟာရအဘိဓာန်စသည်တို့ ရှိအပ်သကဲ့သို့ မြန်မာစကားပုံအဘိဓာန်ဟူ၍လည်း ရှိအပ်လေသည်။

ထို့ကြောင့်လည်း အက္ခရာစဉ် ကျနစွာဖြင့် မြန်မာစကားပုံအဘိဓာန်တစောင်တဖွဲ့ ပြုစုရေးအတွက် ရည်မှန်း၍ သင့်နိုးရာ မြန်မာစကားပုံများကို ၁၉၄၆ ခုနှစ်မှ စတင်စုဆောင်းခဲ့ရာ အလုပ်တာဝန်များပြားသည့်အားလျော်စွာ စာအုပ်အဖြစ်သို့ မရောက်ရှိနိုင်ခဲ့ဘဲ ကြန့်ကြာနေခဲ့ရလေသည်။ သို့ရာတွင် မိုးလင့်၍ ပျိုးရင့်ဆိုသကဲ့သို့ ရှိရင်းစွဲ စကားပုံစာမူများ ပျောက်ပျက်သွားမည်ကို စိုးရိမ်သဖြင့် ရပြီးသမျှ စကားပုံ ၃၀၀၀ နီးပါးကိုပင် ကျမ်းတစောင်တဖွဲ့အဖြစ် ပေါင်းစုထုတ်ဝေလိုက်ရပေသည်။

ဤစကားပုံအဘိဓာန်မှာ မြန်မာတို့လောကတွင် ဤသို့ဤနှယ် သုံးနှုန်းခိုင်းနှိုင်းပြောဆိုခဲ့ကြသည်ဟူသောအချက်မှန်ကို မထိမ်ဝှက်လိုခြင်းကြောင့် ကြားသိမှတ်နာဘူးသမျှ စကားပုံများကို ထည့်သွင်းထားပေရာ၊ အချို့စကားပုံများမှာ ကာရန်လွတ်ခြင်း၊ စကားရင့်သီးခြင်း၊ လူတမျိုးနှင့်တမျိုး စိတ်ဝမ်းကွဲလောက်အောင် နာကျည်းစေနိုင်ခြင်း၊ နှုတ်စကား စာသွားရောထွေးခြင်း စသောအပြစ်များလည်း ပါရှိကောင်း ပါရှိပေမည်။ သို့ရာတွင် မျက်မှောက်ခေတ်တွင် သုံးနှုန်းပြောဆိုကြရာ၌ကား ထိုစကားပုံများကို ဖယ်ချန်၍ အခြားသင့်လျော်သော စကားပုံမျိုးကို အစားသွင်း ပြောဆိုသုံးနှုန်းကြရန် တိုက်တွန်းလိုပေသည်။

စကားပုံအချို့မှာ စာသားတွင် သုံးလေ့မရှိဘဲ နှုတ်ပြောတွင်သာ သုံးနှုန်းကြသဖြင့် စကားသံနှင့်ကာရန်ယူထားပေရာ ကာရန်မပျက်စေလိုရာ၌ ပြောသံအတိုင်းပင် ထည့်သွင်းထားပေသည်။ တကျမ်းတဂါထာ၊ တရွာတပုဒ်ဆန်းဆိုသကဲ့သို့ စကားပုံမူကွဲများ ဆင်တူရိုးမှားများလည်း ရှိပေမည်။ ဤအဘိဓာန်၌ မပါဝင်သော အခြားအသုံးများသည့်စကားပုံများလည်း ရှိပေမည်။ ထိုစကားပုံများကို ဖြည့်သွင်းမှတ်ယူကြစေလိုပေသည်။

အချို့စကားပုံများမှာ ဝတ္ထုကြောင်းမှ ဆင်းသက်လာ၍ အချို့မှာ ပျို့ကဗျာလင်္ကာ

မေတ္တာစာတို့မှ ဖြစ်ပြီး အချို့လည်း နှုတ်လှတ်ကြုံရာ ဟပ်စပ်ခိုင်းနှိုင်းကြခြင်းဖြစ်လေသည်။ အချို့စကားပုံများကို ဥပမာတင်စား၍ဖြစ်စေ တိုက်ရိုက်ဥပစာပြု၍ဖြစ်စေ အကြောင်းသင့်သလို သုံးစွဲကြခြင်းဖြင့် စကားအရာ စာရေးသားရာတို့၌ ထင်ရှားပေါ်လွင်စေနိုင်ပေသည်။ စကားပုံများမှ လူ့လောကခြင်းရာသဘာဝတို့ကိုလည်း လေ့လာနိုင်သည့်ပြင် ထိုက်သင့်သော သင်္ချာစာများကိုလည်း ရရှိနိုင်ပေရာ ဤအဘိဓာန်ကို လူ့သမိုင်းကျမ်း၊ နီတိကျမ်း၊ အလင်္ကာကျမ်းအနေမျိုးဖြင့်လည်း လေ့လာသတိမူနိုင်ပေမည်။

ဤစကားပုံအဘိဓာန်ကျမ်းတွင် စကားလုံးများကို က မှ အ သို့ အောက်ပါအက္ခရာစဉ်အတိုင်း စီသွင်းထားသည်ကို ရှေးဦးစွာ လေ့ကျက်သတိပြုသင့်ပေသည်။

| | |
|---|---|
| အ၊ အာ၊ အား။ | အမ်၊ အမ့်၊ အမ်း။ |
| အိ၊ အီ၊ အီး။ | အယ်၊ အယ့်။ |
| အု၊ အူ၊ အူး။ | အိတ်။ |
| အေ၊ အေ့၊ အေး။ | အိန်၊ အိန့်၊ အိန်း။ |
| အဲ၊ အဲ့။ | အိပ်။ |
| အော၊ အော့၊ အော်။ | အိမ်၊ အိမ့်၊ အိမ်း။ |
| အံ၊ အံ့။ | အုတ်။ |
| အို၊ အို့၊ အိုး။ | အုန်၊ အုန့်၊ အုန်း။ |
| အက်။ | အုပ်၊ |
| အင်၊ အင့်၊ အင်း။ | အုမ်၊ အုမ့်၊ အုမ်း။ |
| အစ်။ | (အုံ၊ အုံ့၊ အုံး) |
| အဉ်၊ အဉ့်၊ အဉ်း။ | အောက်၊ |
| အည်၊ အည့်၊ အည်း။ | အောင်၊ အောင့်၊ အောင်း။ |
| အတ်။ | အိုက်။ |
| အန်၊ အန့်၊ အန်း။ | အိုင်၊ အိုင့်၊ အိုင်း။ |
| အပ်။ | |

◌ျ။ ◌ြ။ ◌ွ။ ◌ှ<br>
◌ျွ။ ◌ြွ။<br>
◌ျှ။ ◌ြှ။ ◌ွှ။<br>
◌ျွှ။ ◌ြွှ။

အထက်ပါအက္ခရာစဉ်အတိုင်း

အက္ခရာစဉ်မှာ အ၊ အာ၊ အိ၊ အီ၊ အု၊ အူ၊ အေ၊ အဲ၊ အော၊ အော်၊ အံ၊ အို ဟူသောသံစဉ်အတိုင်းဖြစ်၍ အသတ်နှင့်ယှဉ်ဗျည်းတို့မှာ ဗျည်းအက္ခရာစဉ်အတိုင်းပင် ဖြစ်လေသည်။

လှသမိန် ၁–၈–၅၅

# မြန်မာစကားပုံ အဘိဓာန်

—

## (က)

၁။ က,ချင်လျက် လက်နာ။
၂။ ကဆုန် ကျက်ကျက်၊ မုရင်းတက်။
၃။ ကဆုန်နယုန်၊ မိုးသိမ့်သိမ့်တုန်။
၄။ ကညာဖြူရွှ၊ ဏ္ဍထိယ၊ ရှုပကောင်းလျက်၊ ဆံထုံးဖျက်။
၅။ ကတုံးပေါ် ထိပ်ကွက်။
၆။ ကတွတ်ပေါက် ဗျိုင်းစောင့်။
၇။ ကဖျက်ယဖျက်။
၈။ ကမြင်းလို့ပြောင်၊ အချည်အနှောင်ခံရ။
၉။ ကရဏီယနှင့်ဆွမ်းစား၊ အံသွားဗထက်ချိုက်လိုက်ပြီ။
၁၀။ ကရားရေလွှတ်၊ တတွတ်တွတ်။
၁၁။ ကရုဏာလွန်သော် ဒေါသ။
၁၂။ ကရိုးမက၊ ထူးက။
၁၃။ ကရင် ထန်းလျက်အိုးတွေ့။
၁၄။ ကရင်အရောဝင်၊ ယောက်ဖခေါ် ချင်။
၁၅။ ကရင်အို ချောင်းကြိုချောင်းကြား။
၁၆။ ကရွတ်ကင်းလျှောက်။
၁၇။ ကလေးငိုချင် ရှင်။
၁၈။ ကလေးမုံ့ပေး၍ကြိုက်။
၁၉။ ကလေးရှက်တော့ငို၊ လူကြီးရှက်တော့ရယ်။
၂၀။ ကလိမ်စေ့ငြမ်းဆင်။
၂၁။ ကာမကြူးလျှင်မွဲ၊ သေရည်ကြူးလျှင်ဆဲ။
၂၂။ ကာလကဦးလျှင် ပြီးတမ်း။
၂၃။ ကိလေသာတွယ်လျှင်၊ မေတ္တာအပယ်ခက်သည်။
၂၄။ ကုလားကလယ်၊ ငါးဖယ်။
၂၅။ ကုလားကို အရောဝယ်၊ ကြက်ချေးရှိန်းခိုလုပ်ပေးသည်။
၂၆။ ကုလားကျောက်ကြည့်သလို။
၂၇။ ကုလားခပ်သည့်ရေ၊ ကုလားခြေဆေးသည်နှင့်ကုန်။
၂၈။ ကုလားသိုက် ကျားဝင်ကိုက်။

၂၉။ ကုလားနှင့်ဝက်၊ သကြားနှင့်လက်ဖက်။
၃၀။ ကုလားနှင့်အရာကြီး၊ အတူတူ။
၃၁။ ကုလားမနိုင်၊ ရခိုင်မဲ။
၃၂။ ကုလားမှန်ကြောင်း၊ နှာခေါင်းသက်သေ။
၃၃။ ကုလားရွှေ ခွေးနင်း။
၃၄။ ကုလားလိုမဆန်းနှင့်၊ ပပြားလိုမရမ်းနှင့်။
၃၅။ ကုသိုလ်ကံပေး မရသေး၊ နှောင်းနှေးဗျာပါမရှိရာ။
၃၆။ ကုသိုလ်တပဲ၊ ငရဲတပိဿာ။
၃၇။ ကုသိုလ်ဖန်၊ ဗိမာန်အသင့်၊ ဘုံအသင့်။
၃၈။ ကုသိုလ်လဲ့ရ၊ ဝမ်းလဲ့ဝ။
၃၉။ ကောဓကြီးစကားယို၊ မာနကြီးစကားမို။
၄၀။ ကော်လည်းကော်၊ ထည့်လည်းထည့်၊ ပွဲစားမလို။
၄၁။ ကံကုသိုလ်ဆိုင်သော်လည်း မပိုင်စားရ။
၄၂။ ကံကောင်းတဲ့ကျား၊ သွားယင်း သမင်တွေ့။
၄၃။ ကံကောင်းတဲ့ခွေး၊ ပြေးယင်း ချေးပုံဟပ်မိ။
၄၄။ ကံကောင်းလျှင် ဉာဏ်ရောင်မလွှမ်းနိုင်။
၄၅။ ကံကောင်းလျှင် တချက်၊ အကြံကောင်းလျှင် တသက်။
၄၆။ ကံချွန်၊ လူမွန်။
၄၇။ ကံငင်ရာ၊ ခုတင်ရွှေ့။
၄၈။ ကံဆိုးမ သွားလေရာ၊ မိုးလိုက်လို့ရွာ။
၄၉။ ကံဆောင်မှ ပြောင်သည်။
၅၀။ ကံထမ်းလာတာ မမြင်ရ၊ လုံထမ်းလာတာသာ မြင်ရ။
၅၁။ ကံမကောင်းတော့၊ ဖရောင်းပင် သစ်စေးဖြစ်။
၅၂။ ကံမကောင်း၊ အကြောင်းမလှ။
၅၃။ ကံမကောင်း၊ တန်ဆောင်းအမိုးလန်။
၅၄။ ကံမခိုင်၊ သံတိုင်အိမ်ဆောက်တော့၊ ကံမှောက်လျှင် ကျိုး။
၅၅။ ကံမရှိ၊ ဉာဏ်ရှိတိုင်းမွဲ။
၅၆။ ကံ မ လျှင်၊ ဟန်ကျသည်။
၅၇။ ကံယုံ၍ ဆူးပုံမနင်းရာ။
၅၈။ ကံရှိမှ ထင်ပေါ်၊ ဉာဏ်ရှိမှကျော်။
၅၉။ ကံသာအမိ၊ ကံသာအဖ။

၆၀။ ကိုယ်ကကျူး၊ ကိုယ့်ဒူးမှ မယုံရ။

၆၁။ ကိုယ်ကိုချုပ်သော်လည်း၊ နှုတ်မစောင့်။

၆၂။ ကိုယ်ကောင်း၊ ခေါင်းဘယ်မရွှေ့။

၆၃။ ကိုယ်တင်တဲ့စစ်ကဲ၊ ကိုယ်ချလို့မရ။

၆၄။ ကိုယ်တွေ့ကြုံမှ ယုံ။

၆၅။ ကိုယ်တွင်ရောဂါ၊ ကပ်ရောက်လာ၊ အနာမရင့်၊ ပါစေနှင့်။

၆၆။ ကိုယ်ထက်သာ မနာလို။

၆၇။ ကိုယ်ထင် ခုတင်ရွှေနန်း။

၆၈။ ကိုယ်နှစ်သက်လျှင်၊ ထန်းပလပ်၊ နတ်ရုပ်ထင်။

၆၉။ ကိုယ်နှုတ်လောက်လင်၊ မပြုချင်နှင့်။

၇၀။ ကိုယ်ဘို့ကြုံ၊ သက်လုံကောင်းစေ။

၇၁။ ကိုယ်မချို၊ အမိသော်လဲ၊ သားတော်ခဲ။

၇၂။ ကိုယ်မလှ ကိုယ်မမြင်၊ သူမလှ ကိုယ်ရယ်ချင်။

၇၃။ ကိုယ်မွေးသည့်မျောက်၊ ကိုယ့်ကိုခြောက်။

၇၄။ ကိုယ့်ကိုယ်ကိုယ်ဖော်၊ သူတော်ခုနစ်ပါး။

၇၅။ ကိုယ့်ကိုကိုယ်သာ၊ ကိုယ်ဆရာ။

၇၆။ ကိုယ့်ကိုယ်ထက် ဘယ်သူမှမချစ်။

၇၇။ ကိုယ့်ကိုသူနိုင်၊ သူ့ကို သူများနိုင်။

၇၈။ ကိုယ့်ကြက် ကိုယ်ချက်စား။

၇၉။ ကိုယ့်ငါးချဉ် ကိုယ်ချဉ်။

၈၀။ ကိုယ့်စိတ်နှင့်နှိုင်း မရိုင်း။

၈၁။ ကိုယ့်ထက်သာ မနာလို။

၈၂။ ကိုယ့်ပေါင်၊ ကိုယ်လှန်ထောင်း။

၈၃။ ကိုယ့်ဖိနပ် ကိုယ်ဖုတ်စားသလို။

၈၄။ ကိုယ့်မုတ္တမှကိုယ်မနိုင်ဘဲ၊ တခရိုင်ကူးချင်သည်။

၈၅။ ကိုယ့်မျက်ချေးကိုယ်မမြင်၊ သူ့မျက်ချေးကိုယ်မြင်။

၈၆။ ကိုယ့်မြင်းကိုယ်စိုင်း၊ စစ်ကိုင်းရောက်ရောက်။

၈၇။ ကိုယ့်ရှူးကိုယ့်ပတ်။

၈၈။ ကိုယ့်လက်သွားမှ သူ့လက်လာ။

၈၉။ ကိုယ့်လှေကိုယ်ထိုး ပဲခိုးရောက်ရောက်။

၉၀။ ကိုယ့်ဝမ်းနာ ကိုယ်သာသိ။

၉၁။ ကိုယ့်သွေးလည်း သွေးဘေးကို ပွားစေသည်။
၉၂။ ကိုယ့်အတတ်နှင့် ကိုယ်စူး။
၉၃။ ကင်းမကောင်းက၊ လှေသားပြော။ မယားမကောင်း ကျွန်ပြော။
၉၄။ ကပ်စေးနှဲ၊ ကော်တရာ။
၉၅။ ကပ်မှစေး၊ စေးမှကပ်။
၉၆။ ကမ္ဘာပျက်ခါနီး လူဖြစ်။
၉၇။ ကမ္ဘာမီးလောင်၊ ဆီမီးခွက် ထတောက်။
၉၈။ ကမ္ဘာမီးလောင်၊ သားကောင်ချနင်း။
၉၉။ ကုန်ခ လို၊ ငို၍တောင်း။
၁၀၀။ ကုန်ရှုံးတခေါက်၊ လင်ကုန်ရှုံး တသက်လုံးမှောက်။
၁၀၁။ ကုန်းလဲပိုးသေး၊ လျှောလဲဆင်းသေး။
၁၀၂။ ကုပ်ကုပ်နေ၊ တစ္ဆေမှတ်နှင့်။
၁၀၃။ ကောက်ညှင်းကမစေး၊ ဆန်ကြမ်းကစေး။
၁၀၄။ ကောက်နှောင်းလျှင် ဆင်စာ၊ သားနှောင်းလျှင် ကျွန်ရာ။
၁၀၅။ ကောက်ပင်ရိတ်လို့၊ ရေစီးဖောင်ဆန်။
၁၀၆။ ကောက်ရိုးနှင့်လဲ၊ အိုးကွဲ။
၁၀၇။ ကောက်သော်မစားလောက်၊ ဖြောင့်သော် စားမကုန်။
၁၀၈။ ကောက်သင်းကောက်သူက အနှံကြီးကြိုက်။
၁၀၉။ ကောင်းကင်မီးလောင်၊ တိမ်တောင်ပျားစွဲ။
၁၁၀။ ကောင်းတော့ ထန်းပင်ချောင်း၊ တူရွင်းထိုးခံရတော့ ထန်းစေ့မှတ်။
၁၁၁။ ကောင်းပင် ကောင်းသော်လည်း၊ နှမ်းထောင်းမပါ။
၁၁၂။ ကောင်းမှန်းသိ၊ သာအိတစိုစို။
၁၁၃။ ကောင်းလျှင်စံ၊ ဆိုးလျှင်ခံ။
၁၁၄။ ကိုက်မနိုင်၊ ခဲမရ။
၁၁၅။ ကိုင်းကျွန်းမှီ၊ ကျွန်းကိုင်းမှီ။
၁၁၆။ ကိုင်းတော ဆင်နင်း။
၁၁၇။ ကိုင်းတော မီးလောင်။
၁၁၈။ ကိုင်းလဲမထမ်းချင်၊ အီးလဲ မနမ်းချင်။
၁၁၉။ ကျတိုင်းလည်း ကုန်း၍မကောက်နှင့်။
၁၂၀။ ကျမြေကြီး၊ တက်ရွှေထီး။
၁၂၁။ ကျားကိုခလုတ်၊ သစ်ငုတ်သင်ဖျူး။

၁၂၂။ ကျားကိုက်ပါသည်ဆို၊ နာတာရှည်လားမေး။
၁၂၃။ ကျားကျား မီးယပ်။
၁၂၄။ ကျားကြီး၊ ခြေရာကြီး။
၁၂၅။ ကျားကြောက်လို့ ရှင်ကြီးကိုး၊ ရှင်ကြီး ကျားထက်ဆိုး။
၁၂၆။ ကျားချင်းကိုက်ရာ သမင်ကူးမှား။
၁၂၇။ ကျားဆရာကြောင်၊ ကြောင်ဆရာကြွက်။
၁၂၈။ ကျားနေမြဲ၊ ပိုနေမြဲ။
၁၂၉။ ကျားဖင်နှိုက်ရသည်ထက် ကြောက်။
၁၃၀။ ကျားမရဲတစ်၊ လူမရဲဟစ်။
၁၃၁။ ကျားမြီးကို ဆွဲရသည်ထက်ခက်။
၁၃၂။ ကျားရဲမှ သေစေ၊ တောမှကျေစေ။
၁၃၃။ ကျားရဲရာ ကြမ္မာမရှိးသာ။
၁၃၄။ ကျားရဲရာ မီးထည့်အိပ်ရ။
၁၃၅။ ကျားရှေ့ မှောက်လျက်လဲ။
၁၃၆။ ကျားလည်းကြောက်ရ၊ ကျားချေးလည်း ကြောက်ရ။
၁၃၇။ ကျားသနားမှ နွားချမ်းသာ။
၁၃၈။ ကျားသေမှ လူစွမ်းကောင်းပေါ်။
၁၃၉။ ကျီစား၊ ကျီစားနှင့် အထစ်မြုပ်။
၁၄၀။ ကျီစားသန် ရန်ဖြစ်။
၁၄၁။ ကျီးကို ပုတ်ရှိသေမှ၊ ပုတ်ကို ကျီးရှိသေ။
၁၄၂။ ကျီးကိုလူမိ၊ ကြောက်စလိ။
၁၄၃။ ကျီးကန်း တောင်းမှောက်။
၁၄၄။ ကျီးကန်းမျိုးလို၊ အမျိုးမှန်းသိ။
၁၄၅။ ကျီးကန်းမျက်စိ၊ တောင်ကြည့်မြောက်ကြည့်။
၁၄၆။ ကျီးကန်း သူကောင်းမြှောက်၊ ချေးခြောက်ကောက်စား။
၁၄၇။ ကျီးကန်း အဆီမရှိ။
၁၄၈။ ကျီးနှင့်ခင်ပုပ်၊ ရန်ဘက်လုပ်။
၁၄၉။ ကျီးတကောင် လေ်မာ၍ ကျီးများစွာ ပျက်။
၁၅၀။ ကျူပင်ခုတ်၊ ကျူငုတ်မျှမကျန်စေနှင့်။
၁၅၁။ ကျေးကျွန်ရိုင်းသော် အမှုကျယ်၏။
၁၅၂။ ကျေးဇူးတင်မှ လင်ရ။

၁၅၃။ ကျေးဇူးရှိမှ ကျေးစွပ်။
၁၅၄။ ကျေးလိမ္မာကြောင့်၊ မဟော်သဓာ စန်းထ။
၁၅၅။ ကျေးသား နှောင်အိမ်သွင်းသလို။
၁၅၆။ ကျောချမှ ခမြမှန်းသိ။
၁၅၇။ ကျောဟပ်မှ မီးကပ်မှန်းသိ။
၁၅၈။ ကျော်တော့ လှေထိုးသား၊ ညားတော့ လှေသူကြီး။
၁၅၉။ ကျိုးစားမှ ဒိုးပြားရ။
၁၆၀။ ကျိုးစားက ဘုရားဖြစ်သည်။
၁၆၁။ ကျိုးဆော့၊ ကန်းမော့။
၁၆၂။ ကျိုးနွံမှဝန်ချ၊ မိုးလွန်မှထွန်ချ။
၁၆၃။ ကျိုးလို့သာ၊ မကျိုး မိုးထိုးမည်။
၁၆၄။ ကျစ်မှလုံးသည်၊ ညစ်မှမုန်းသည်။
၁၆၅။ ကျည်ပွေ့အတက်မပေါက်။
၁၆၆။ ကျည်မှန်းယမ်းမှန်း အမြောက်ဆန်။
၁၆၇။ ကျန်းမာမှ ချမ်းသာ။
၁၆၈။ ကျမ်းကြည့်ထက်၊ ကျမ်းညှိခက်။
၁၆၉။ ကျောက်ကျောရေပက်မဝင်။
၁၇၀။ ကျောက်ပေါ် ချော်လဲ၊ မီးရဲရဲပွင့်။
၁၇၁။ ကျောက်ဖျာမှာ ဝက်တူးစား၊ စကားသာရှိ။
၁၇၂။ ကျောင်းစာရေးနှင့်ခွေးတိရစ္ဆာန်၊ နိဗ္ဗာန်နှင့်ဝေး ဉာယန္တေး။
၁၇၃။ ကျောင်းနေ ကြာလေ၊ မိုက်လေ။
၁၇၄။ ကျောင်းနေကြာလို့ စာမတတ်။
၁၇၅။ ကျောင်းနေကြာလျှင်၊ ဆရာကို မရိုသေ။
၁၇၆။ ကျောင်းနေဆရာရိုက်၊ အိမ်နေအမေရိုက်။
၁၇၇။ ကျောင်းသာ ပြောင်သည်၊ ဆွမ်းဟောင်တာ လူမသိ။
၁၇၈။ ကျောင်းအမ၊ ဟာထိုးလို့မထူး။
၁၇၉။ ကျိုက်ထီးရိုး၊ ကြိုးတဖျားချောင်။
၁၈၀။ ကျိုက်ထိုထို၊ ရစ်လိုလို့မရ။
၁၈၁။ ကျိုင်းနှင့်သားပေါက်၊ ငါးစင်ရိုင်းနှင့်ငါးသလောက်။
၁၈၂။ ကျွဲချိုလိန်၊ လူနံပိန်။
၁၈၃။ ကျွဲနွားရိုင်း ကြိုးတိုင်လယ်၊ ကြေးကျွန်ရိုင်း အမှုကျယ်။

၁၈၄။ ကြာကြာဝါးမှ ခါးမှန်းသိ။
၁၈၅။ ကြာပင်အောက်က ဖားမော့။
၁၈၆။ ကြာရိုးကြာစွယ်မြင်။ ရေတိမ်ရေနက်ကို သိ။
၁၈၇။ ကြာရှည်ဝါးမည့်သွား၊ အရိုးကြည့်ရှောင်။
၁၈၈။ ကြားမယုံ၊ ကြုံမှသိ။
၁၈၉။ ကြီးချိန်တန်ကြီး၊ မြင့်ချိန်တန်မြင့်။
၁၉၀။ ကြီးနိုင် ငယ်ညှင်း။
၁၉၁။ ကြီးလျှင်မှီ၊ ငယ်လျှင်ချီ။
၁၉၂။ ကြေးနှင့်မဝယ်၊ ကျွန်မမယ်။
၁၉၃။ ကြော်မှကြား၊ ရှားမှမှတ်သည်။
၁၉၄။ ကြံကိုဝယ်၍စုတ်ပါဆို၊ ကန်စွန်းဥဝယ်စား။
၁၉၅။ ကြံကိုအရင်း၊ ဆန်ကိုဆန်ရင်း။
၁၉၆။ ကြံကြောက်၊ လှည်းအောက် မအိပ်နှင့်။
၁၉၇။ ကြံပါသော်လဲ၊ ကချော်လျှင်လွဲ၊ မကြံသော်လဲ၊ ကံကော်လျှင်မြဲ။
၁၉၈။ ကြံသာအစဉ်ချို၊ လူအစဉ်မချို။
၁၉၉။ ကြိုးကြာဆို ဘယ်ငှက်လဲမေး။
၂၀၀။ ကြိုးချင်းထား၊ ကြိုးချင်းငြိ။ အိုးချင်းထား၊ အိုးချင်းထိ။
၂၀၁။ ကြိုးစားက၊ ဘုရားဖြစ်။
၂၀၂။ ကြိုးစားပါ၊ ကြိုးရာမရောက်။
၂၀၃။ ကြက်ကမတိုး၊ ပိုက်ကတိုး။
၂၀၄။ ကြက်ကလေးကို ကြက်မကြီးလှည့်စား။
၂၀၅။ ကြက်ကန်းအစာကောက်၊ ကျောက်ခဲရ။
၂၀၆။ ကြက်ကန်း ဆန်အိုးတိုး။
၂၀၇။ ကြက်ကန်း ဆန်ပြ။
၂၀၈။ ကြက်ကောင်းကို ဆန်ပြ၊ အဝေးကပြ။
၂၀၉။ ကြက်ကောင်း ကြိုးမကွာ။
၂၁၀။ ကြက်ကောင်းဆုတ် ဆုတ်။
၂၁၁။ ကြက်ခေါင်းဆိတ်မခံ။
၂၁၂။ ကြက်ခြံထဲက မြင်းစကားပြော။
၂၁၃။ ကြက်ချည်သောကြိုးနှင့်ဆင်ချည်သော် ပြတ်၏။
၂၁၄။ ကြက်စပါးစား ထရံဒဏ်သင့်။

၂၁၅။ ကြက်ဆူပင် နတ်ကြောင့်၊ အမြတ်ရ။
၂၁၆။ ကြက်ဆူပင် မင်းမူ။
၂၁၇။ ကြက်ဆုတ်ခွတ်ပစ်၊ ရေစစ်ကရား။
၂၁၈။ ကြက်တူရွေးတော်တော်၊ မယ်တော်ကကဲလွန်း။
၂၁၉။ ကြက်နာ၍ ဗေဒင်မေးရာ ကြက်ကိုသတ်၍တင်။
၂၂၀။ ကြက်နှစ်ဖလည်းပန်း၊ လုပ်ငန်းလည်းကျေ။
၂၂၁။ ကြက်မတွန်၍ မိုးမလင်း။
၂၂၂။ ကြက်မသွားရာ၊ မြားပါ။
၂၂၃။ ကြက်မောက်ကို လှီး၍ ကြက်စာခွန့်။
၂၂၄။ ကြက်မှာအမြစ်၊ လူမှာအချစ်။
၂၂၅။ ကြက်မှာအရိုး၊ လူမှာအမျိုး။
၂၂၆။ ကြက်လို ချေးကျရာပျော်။
၂၂၇။ ကြက်သွန်းအစာကောက်၊ ကျောက်ခဲသလဲ။
၂၂၈။ ကြက်ဥပြုတ် သံဒုတ်နှင့်ရိုက်။
၂၂၉။ ကြက်ဥအစ၊ ရှာမရ။
၂၃၀။ ကြက်ဥအယောင်၊ တိမ်တောင်သဖွယ် မင်းရေးကျယ်။
၂၃၁။ ကြက်အိုသုံးကရှုံးတတ်၊ လူအိုသုံးကထုံးပြတ်။
၂၃၂။ ကြင်မှချစ်၊ သစ်မှသန့်သည်။
၂၃၃။ ကြင်ယာရှိမှပေါ်ထင်၊ ပညာရှိမှခေါ်ချင်။
၂၃၄။ ကြင်သာကြင် မခင်။
၂၃၅။ ကြည်ညိုလောက်မှ လူကြောက်သည်။
၂၃၆။ ကြည့်တော့ဆင်၊ မြင်တော့ထီး။
၂၃၇။ ကြည့်တတ်ဘာဝနာ၊ မကြည့်တတ်တဏှာ။
၂၃၈။ ကြည့်လေဝေးလေ၊ နားရွက်ခွေ။
၂၃၉။ ကြမ္မာဆောင် သားကောင်ဆိတ်ဖြစ်။
၂၄၀။ ကြမ်းကြား လေကြား။
၂၄၁။ ကြမ်းကြားလေနှင့် ဗူးခါးရေ။
၂၄၂။ ကြမ်းကျွံနှုတ်လို့ရ၊ စကားကျွံ နှုတ်မရ။
၂၄၃။ ကြယ်နှင့်နေ၊ ရွှေနှင့်မြ။
၂၄၄။ ကြောက်တတ် ရန်ကင်း။
၂၄၅။ ကြောက်တိုင်းလည်း မခြောက်နှင့်၊ မြှောက်တိုင်းလည်း မမြောက်နှင့်။

၂၄၆။ ကြောက်ပါသည်ဆိုလေ၊ ကြောင်နှင့်တို့လေ။
၂၄၇။ ကြောက်လို့မသေ ရှက်လို့သေ။
၂၄၈။ ကြောက်လွဲ၊ ရဲ မင်းဖြစ်။
၂၄၉။ ကြောက်သည့်ဆို၍ မျက်လုံးဖွဲခြောက်။
၂၅၀။ ကြောင်ကဲ့သို့ကျင့်၊ ညောင်ကဲ့သို့ကျင့်။
၂၅၁။ ကြောင်တကောင်အတွက်၊ ကြွက်တမြုံပျက်။
၂၅၂။ ကြောင်တသက်ပုံ၊ ကြွက်တမြုံ။
၂၅၃။ ကြောင်တောင်တောင်၊ ပြောင်တက်တက်၊ မောင်းကျောက်မှန်သည့်ကြက်။
၂၅၄။ ကြောင် ပုဆိုးကြမ်းရသလို။
၂၅၅။ ကြောင်မရှိ ကြွက်မြူး။
၂၅၆။ ကြောင်လက်သည်းဝှက်၊ လိုမှထွက်။
၂၅၇။ ကြောင်လျှာပင် အခါးကောင်း၍ မိကျောင်းလျှာမရှိ။
၂၅၈။ ကြောင်သွား၍ ဆီးနှင်းမကြွေ၊ လေလာ၍ ကျောက်တိုင်မရွေ့။
၂၅၉။ ကြောင်အို၊ ကြွက်မနိုင်။
၂၆၀။ ကြောင်အို၊ ကြွက်မလေး။
၂၆၁။ ကြောင်းမတန်၊ မာန်လျှော့။
၂၆၂။ ကြိုက်မရှက်၊ ငိုက်မရှက်၊ ငတ်မရှက်။
၂၆၃။ ကြိုက်လျှင်တော်၊ လိုက်လျှင်ခေါ်။
၂၆၄။ ကွမ်းသီးကြိုက်၊ တောင်ငူပို့။
၂၆၅။ ကွယ်တတ်မှဆီး၊ ကြွယ်တတ်မှပြီး။
၂၆၆။ ကွယ်မေ့၊ တွေ့ သေအောင်လွမ်း။
၂၆၇။ ကျွဲချိုလိန်၊ လူနံပိန်။
၂၆၈။ ကျွဲနှစ်ကောင်ခတ်သည့်ကြား၊ မြေဇာပင်မခံနိုင်။
၂၆၉။ ကျွဲနွားရှိင်းသော် ကြိုးတိုင်လည်၏။
၂၇၀။ ကျွဲပါးစောင်းတီး။
၂၇၁။ ကျွန်နှင့်သူကောင်း အတူပေါင်း၊ သူကောင်း ကျွန်စော်နံ။
၂၇၂။ ကျွန်မိုက်ကို အရောဝင်၊ အရှိသေတန်။
၂၇၃။ ကျွန်မိုက်အရောဝင်၊ အရှင်အကျိုးယုတ်။
၂၇၄။ ကျွန်ယုံတဖက်ကန်း၊ သားသမီးယုံ စုံလုံးကန်း။
၂၇၅။ ကျွန်လိမ္မာအရောဝင်၊ အရှင်ကိုကျိုးနွံ့။
၂၇၆။ ကျွန်ဝယ်ရာ၊ ငနှောင်းအဆစ်ပါ။

၂၇၇။ ကျွေးတင်ကျွန်ဖြစ်။
၂၇၈။ ကျွေးတုံ့ကျွေးလှည့်၊ မွေးတုံ့မွေးလှည့်။
၂၇၉။ ကျွန်းကိုင်းမှီ၊ ကိုင်းကျွန်းမှီ။
၂၈၀။ ကျွမ်းတော့ကျွမ်း၏ မသိ။
၂၈၁။ ကြွလွန်းက ယိုင်တတ်သည်၊ ထလွန်းက ထိုင်တတ်သည်။
၂၈၂။ ကြွေတလက်၊ ကြွက်တခုန်။
၂၈၃။ ကြွေးစားအပိုင်၊ ကြွေးတိုင်မကင်း။
၂၈၄။ ကြွေးတင်၊ ဘုရင်ဆပ်လိမ့်။
၂၈၅။ ကြွေးထူမပူ၊ သန်းထူမယား။
၂၈၆။ ကြွက်ကိုငြိုးလို့၊ ကျီမီးရှို့။
၂၈၇။ ကြွက်ခွန် တောင်း လင်းနို့၊ လင်းနို့ ခွန်တောင်း ကြွက်။
၂၈၈။ ကြွက်နားရွက်၊ ဝက်တပ်။
၂၈၉။ ကြွက်မနိုင် ကျီမီးရှို့။
၂၉၀။ ကြွက်သေတခု၊ အရင်းပြု။
၂၉၁။ ကြွယ်တတ်မှပြီး၊ ကွယ်တတ်မှဆီး။

## (ခ)

၁။ ခဏဆို တလ၊ တလဆို မကြွ။
၂။ ခတက်ပင်ရင်း၊ ခတက်ရွက်ရှား။
၃။ ခရားစေ့တွင်းကျ။
၄။ ခရီးတွင်လည်း ရှာစဉ်မသိ။
၅။ ခရီးလိုလျှင် လမ်းအိုလိုက်။
၆။ ခရီးသွားဟန်လွှဲ။
၇။ ခရုခါးတောင်းကျိုက်၍ဖမ်း။
၈။ ခရုမှာအဆန်၊ လူမှာဉာဏ်။
၉။ ခရုမှာအရစ်၊ လူမှာအထစ်နှင့်။
၁၀။ ခရေပွင့်လည်းကောက်၊ စာလည်းခြောက်။
၁၁။ ခရမ်းသီးတတွဲ၊ ဆန်တခွဲ။
၁၂။ ခရမ်းသီးပိန်၊ ဓားတုံး။
၁၃။ ခလုတ်ထိမှ အမိတ။

၁၄။ ခလုတ်သင်ဖြူး၊ ဆူးကိုမွှေရာ။
၁၅။ ခါချဉ်ကောင် မာန်ကြီးလို့၊ တောင်ကြီး ဖြိုမည်ကြံ၊ ခါးကမသန်။
၁၆။ ခါးတောင်းကျိုက်ကြီးနှင့်မီးမှုတ်။
၁၇။ ခါးတောင်းကျိုက်တလွဲ၊ တင်တလွဲ။
၁၈။ ခုစာကလေးကြော်၊ ခုဆီထမင်း။
၁၉။ ခုနစ်စင်၊ အမျှင်တန်း။
၂၀။ ခုနစ်လ သွားငုတ်တုတ်၊ လူငုတ်တုတ်။
၂၁။ ခုနစ်အိမ်၊ တအိမ်စုန်း။
၂၂။ ခုမှပေါ်သည့်ရွှေကြာပင်က၊ ပေါ်ထင်ချင်။
၂၃။ ခုမှမြင့်၊ တင့်မှတော်သည်။
၂၄။ ခုရေတွင်းတူး၊ ခုရေကြည်သောက်။
၂၅။ ခုရှုပ်မှ နောင်ရှင်း။
၂၆။ ခုလင်နေ၊ ခုသားမွေးချင်။
၂၇။ ခူးခပ်ပြီးမှ လက်ဆေးဝင်။
၂၈။ ခဲမှန်ဘူးသည့်စာသားငယ်၊ ရွှယ်ရုံနှင့်လန့်။
၂၉။ ခဲလေသမျှ၊ သဲရေကျ။
၃၀။ ခေါ်တိုင်းလည်း မသွားနှင့်၊ တော်တိုင်းလည်း မကြွားနှင့်။
၃၁။ ခံဆူးခံချွန်၊ ဇီးဆူးဇီးချွန်။
၃၂။ ခိုငယ်နန်းကို အဆန်းခြယ်။
၃၃။ ခိုးချင်တာလည်း ပြောလို့၊ လက်နှေးရာလည်း ချောလို့။
၃၄။ ခိုးစားခွေးဟောင်၊ လုပ်စားမိုးခေါင်။
၃၅။ ခိုးတတ်မှ ယိုးတတ်သည်။
၃၆။ ခိုးရာလိုက်တိုင်း၊ ကြိုက်၍မထင်နှင့်။
၃၇။ ခိုးလည်းခိုးရ၊ ပို့လည်းပို့ရ။
၃၈။ ခိုးသူ ငရဲမလား၊ ရှိုးသူ ငရဲလား။
၃၉။ ခက်တင်မောင်းနင်း။
၄၀။ ခင်ကြီးနှင့်ဖီး။
၄၁။ ခင်ကြီးလက်ရမ်းတက်က၊ မောင်ရှင် ကျပ်ခိုးစင် တက်မည်။
၄၂။ ခင်ရာဆွေမျိုး၊ မြိန်ရာဟင်းကောင်း။
၄၃။ ခတ်ကွင်းပြင်သည်နှင့် ရွာသစ်ကြီးရောက်။
၄၄။ ခပ်ပြာကို ရွှေမှတ်။

၄၅။ ခုတ်ရာတခြား၊ ရှရာတလွဲ။
၄၆။ ခုန်ညင်းလည်းရှုံး၊ ဒိုးလည်းရှုံး။
၄၇။ ခုံကြား၊ တခြားသက်သေမလို။
၄၈။ ခုံကျူးခုံတာ၊ ရှေ့နေကျူး ရှေ့နေတာ။
၄၉။ ခေါက်ချိုးပြော ဇောက်ထိုးနားလည်။
၅၀။ ခေါင်ကမှ မိုးမလုံ၊ တံစက်မြိတ်ကမလုံနိုင်။
၅၁။ ခေါင်ဇယ်လည်း မှန်းချင်၊ ကဲလည်းကဲချင်။
၅၂။ ခေါင်းဆောင်နွားလား၊ ဖြောင့်ဖြောင့်သွားက၊ နောက်နွားစဉ်စိုက်၊ ဖြောင့်ဖြောင့်လိုက်။
၅၃။ ခေါင်းတလုံးနှင့် အိုးနှစ်လုံးရွက်။
၅၄။ ခေါင်းသွားရာ အမြီးပါ။
၅၅။ ခိုင်းကောင်းတိုင်း မခိုင်းနှင့်၊ စိုင်းကောင်းတိုင်း မစိုင်းနှင့်။
၅၆။ ချချင်ချ၊ နှစ်မတော့မပေးဘူး။
၅၇။ ချာသာချာ၊ အသာလိုချင်။
၅၈။ ချိန့်ချိန့်နှင့် လင်လိုချင်။
၅၉။ ချီမှမြောက်၊ ထောက်မှခံသည်။
၆၀။ ချီးမွမ်းခုနစ်ရက်၊ ကဲ့ရဲ့ခုနစ်ရက်။
၆၁။ ချီးမွမ်းတပည့်၊ ကဲ့ရဲ့ဆရာ။
၆၂။ ချီးမွမ်းတန်သည် လူရည်ကိုရှု။
၆၃။ ချီးမွမ်းတိုင်း မြောက်လျှင် ဘေးရောက်မည်။
၆၄။ ချီးမွမ်းလွန် မခြေင်၊ ပြစ်တင်လွန် မကျိုးနွံ။
၆၅။ ချူတတ်မှကျ၊ ယူတတ်မှရ။
၆၆။ ချေအီး၊ ချေလန့်။
၆၇။ ချေးကို ခွေးနိုင်သလို။
၆၈။ ချေးကိုမြင်၊ ယင်အုံသည်။
၆၉။ ချေးခြောက် ရေမနူးနှင့်။
၇၀။ ချေးထဲကလောက် ချေးထဲပျော်သည်။
၇၁။ ချေးနှင့်ပက်၊ လက်အလျှင်ပေ။
၇၂။ ချေးပုံ လက်နှင့် ပုတ်သလို။
၇၃။ ချေးယို ချီသွေးရသည်နှင့် တပွဲပြီး။
၇၄။ ချေးယိုချိန်နီးမှ ချေးခံတွင်းပေါက်ရှာ။

၇၅။ ချောလျှင် မကလက်နှင့်၊ တောမြင် မဝှက်နှင့်။
၇၆။ ချောလဲ ရောထိုင်။
၇၇။ ချိုကုပ်စုတ္တင် ချိုထောင်လုပ်ချင်။
၇၈။ ချိုကျိုးရာ နားရွက်ပဲ့။
၇၉။ ချိုကျိုးသည့်နွား အားယုတ်။
၈၀။ ချိုချိုပြောလျှင် နားဝင်။
၈၁။ ချိုတယ်လူး၊ အိမ်ဦးမှာချည်၊ ဥစ္စာတည်။
၈၂။ ချိုလွန်းလျှင် ခါးသည်။
၈၃။ ချက်ဆို နားခွက်က မီးတောက်။
၈၄။ ချင်းစိမ်းနှင့်မိဿလင်၊ သူကြင်မှ ကိုယ်ကြင်။
၈၅။ ချင်းလက် ကျောက်ကောင်းရောက်။
၈၆။ ချင်းလက် ကျွန်ဖြစ်။
၈၇။ ချစ်စေလို ခံတွင်း လက်လေးသစ်။
၈၈။ ချစ်တီးခေါင်း သန်းရှာ။
၈၉။ ချစ်တီးမှတ်လို့ ပေးစားပါ၊ မိုးလင်းမှ ဘိုးသူတော်မှန်းသိ။
၉၀။ ချစ်တုန်းခင်တုန်း၊ တပြုံးပြုံး။
၉၁။ ချစ်သော်မခြားမနား၊ မုန်းသော် ကစဉ့်ကလျား။
၉၂။ ချစ်လျှင်အကျိုး၊ မြတ်နိုးလျှင် သဒ္ဓါ။
၉၃။ ချစ်လျှင်အိမ်ထောင်၊ ညစ်လျှင်အိမ်ရှောင်။
၉၄။ ချဉ်ချဉ်တူးတူး မူးပြီးတမ်း။
၉၅။ ချဉ်သီးပင်အောက် ချဉ်သီးရှား။
၉၆။ ချည်ပါသားစကား သုံးခွက်တခွက်။
၉၇။ ချည်ပုဆိုးက ပိုးပေါင်။
၉၈။ ချည်ပြာထဘီနှင့် တာဝတိံသာလွှမ်း။
၉၉။ ချည်မှမြဲ၊ ဆွဲမှပါ၏။
၁၀၀။ ချည်သေး၍ ချားမလည်၊ ငယ်သေး၍ နားမလည်။
၁၀၁။ ချမ်း ကြက်ချေးနမ်း။
၁၀၂။ ချမ်း ရေချိုး၊ နှင်းတောတိုး။
၁၀၃။ ချမ်းသာရာ နိဗ္ဗာန်။
၁၀၄။ ချမ်းသာလို သီလ၊ နိဗ္ဗာန်လို အနတ္တ။
၁၀၅။ ချမ်းသာလွန်သော် ရာဂ။

၁၀၆။ ချိတ် ချိတ်ချင်းမှ ချိတ်မိသည်။
၁၀၇။ ချိန်ခွင်အကော့မှား၍ သားမိုးကြိုးပစ်။
၁၀၈။ ချိန်စဉ်းလဲ၊ တင်းစဉ်းလဲ၊ ငရဲမကြောက်။
၁၀၉။ ချိန်တော့မိုး၊ ထိုးတော့မြေကြီး
၁၁၀။ ချိန်းလွန်းလျှင် မလာ။
၁၁၁။ ချုတ်ချယ်လွန်းလျှင် ကန်သည်။
၁၁၂။ ချုန်းလွန်းသည့်မိုး မရွာ။
၁၁၃။ ချောင်းကိုပစ်၍ မြစ်ကိုရှာ၊ ရေသာများ၍ ငါးမတွေ့။
၁၁၄။ ချောင်ကောင်းမှ ကျောင်းဆောက်ရ။
၁၁၅။ ချောင်းရေလာ၊ သဲကာ၍ ဆို့မရ။
၁၁၆။ ချောင်းရိုးမြောင်းရိုးသာ တိမ်ကောသည်၊ လူမျိုးမတိမ်ကော။
၁၁၇။ ချောင်လျှင် သပ်ပင်း၊ ကြပ်လျှင် ထွင်း။
၁၁၈။ ချိုင်တော့တကိုင်း၊ ပြတ်တော့ တကိုင်း။
၁၁၉။ ခြေချော်လျှင် လဲရုံ၊ နှုတ်ချော်လျှင် ငရဲဘုံ။
၁၂၀။ ခြေကလှုပ်၊ ချွန်းကအုပ်။
၁၂၁။ ခြေနှစ်ချောင်းလည်း မကယ်နှင့်၊ သူ့လှေမျောလည်း မဆယ်နှင့်။
၁၂၂။ ခြေဖဦး၊ ဒူးမျှမလှည့်။
၁၂၃။ ခြေမပူး၊ လက်မပူး။
၁၂၄။ ခြေလျှင် ကယ်ပါ့ မြင်းသမား။
၁၂၅။ ခြေလှမ်းကျယ်၊ အလယ်လပ်သည်။
၁၂၆။ ခြေသလုံးမြင်ရုံနှင့် တောသားမှန်းသိ။
၁၂၇။ ခြံခုန်ဘူးသည့်နွား၊ ခြံခုန်မြဲ။
၁၂၈။ ခြသေ့်ဆီ သိင်္ဂီရွှေခွက်မှာတည်သည်။
၁၂၉။ ခြသေ့်မင်းရှေ့ ယုန်ငယ်မသန်းဝံ့။
၁၃၀။ ခြသေ့်မှန်မမှန် မှင်ဆံသက်သေ။
၁၃၁။ ခြုံလှုပ်မှ ထင်းရ။
၁၃၂။ ခွေးကလေးအရောဝင်၊ ပါးလျက် နားလျက်။
၁၃၃။ ခွေးကပင်ကျူးကျူး၊ ယုန်ကပင် ကျူးကျူး။
၁၃၄။ ခွေးကိုရိုက်ချင်၊ ခွေးရှင် မျက်နှာထောက်။
၁၃၅။ ခွေးကိုချည်းနိုင်သလို။
၁၃၆။ ခွေးကောင်ပုပ်လေ၊ လင်းတကြိုက်လေ။

၁၃၇။ ခွေးကျမကျ၊ ကြောင်ကျကျ။
၁၃၈။ ခွေးကြီးအိုမှ နီပါးမှည့်။
၁၃၉။ ခွေးခိုး ရှာလည်။
၁၄၀။ ခွေးစကားယုံ၊ ပုဏ္ဏားခြေတိုး။
၁၄၁။ ခွေးဆိုးကိုခြုံဆွဲက၊ ဇက်ရဲ၍လူကိုက်။
၁၄၂။ ခွေးတကောင်နှင့် မျောက်တထောင်။
၁၄၃။ ခွေးတကောင် သားရေ စား၍၊ ခွေးအများ အရိုက်ခံရ။
၁၄၄။ ခွေးတောက်မြစ်ရက်၊ စိုက်ရောဖက်က၊ သရက်ပင်မင်း၊ သီးချိုကင်း။
၁၄၅။ ခွေးနေရာမရ။
၁၄၆။ ခွေးနက်ကြီးသုန်၊ ချေးကုန်နည်း။
၁၄၇။ ခွေးပါးစပ်က နတ်စကားထွက်။
၁၄၈။ ခွေးပု ရန်လို၊ လူပု စိတ်တို။
၁၄၉။ ခွေးဖင်သီ၊ ညှော်သည်ရောက်။
၁၅၀။ ခွေးဖြူ တောမတိုးဝံ့။
၁၅၁။ ခွေးဖြစ်က ချေးမကြောက်နှင့်။
၁၅၂။ ခွေး ဘုရားပွဲတွေ့။
၁၅၃။ ခွေးမရောက် အိမ်မိုးခေါင်။
၁၅၄။ ခွေးမြီးကောက်၊ ကျည်ထောက်စွပ်။
၁၅၅။ ခွေးမှာအရောင်၊ ကြောင်မှာနဖူး၊ လူမှာဒူး။
၁၅၆။ ခွေးရူးကောင်းစား၊ တမွန်းတည့်။
၁၅၇။ ခွေးရူးကိုက်မည့်သူ သျှောင်ကလေးနှင့်။
၁၅၈။ ခွေးရူးနှင့်ခွေးကောင်းကိုက်၊ ခွေးကောင်းနားရွက်ပဲ့။
၁၅၉။ ခွေးရူးလျှင် မြွေကိုနမ်း။
၁၆၀။ ခွေးလေ တော်သလင်း စောင့်။
၁၆၁။ ခွေးလိုရူး တိုက်တိုင်းကိုက်၊ အရိုက်ခံရရှုံအဖတ်တင်။
၁၆၂။ ခွေးလည်ပို့ ရှာ၍မရ။
၁၆၃။ ခွေးလိမ္မာ အမြီးကုပ်၊ ကျွန်လိမ္မာ နောက်ဆုတ်။
၁၆၄။ ခွေးလိမ္မာ၊ အမြီးသာလှုပ်သည်။
၁၆၅။ ခွေးလှို့လ ချေးစား။
၁၆၆။ ခွေးလှေးခုန်၍ ဖုံမထ။
၁၆၇။ ခွေးဝင်စား၊ သနား၍ လက်မခံနှင့်။

၁၆၈။ ခွေးဝမ်း ဆန်စား၍ မကျေ။
၁၆၉။ ခွေးဝမ်းသာအောင် လေလည်ပြ။
၁၇၀။ ခွေးသူခိုး အိုးလည်ပင်းစွပ်မိ။
၁၇၁။ ခွေးဟောင်တိုင်း၊ ခေါင်းထောင်မကြည့်နိုင်။
၁၇၂။ ခွေးဟောင်၍ တောင်ပို့မရွှေ့။
၁၇၃။ ခွေးဟောင်၍ ပိုးမပြေး။
၁၇၄။ ခွေးအူလျှင်၊ လူမရှိမှန်း သိ။
၁၇၅။ ခွေးအိုကြီး လက်ပေးသင်။
၁၇၆။ ခွေးအို သားရေကြိုးနှင့်ချည်။
၁၇၇။ ခွေးအိမ်မိုးတက်၊ အိမ်ရှင်ပျက်။
၁၇၈။ ချွန်းမတင်သော ဆင်၊ မျဉ်းမတင်သော လှေ။
၁၇၉။ ခြေမှုရံသည်။

(ဂ)

၁။ ဂရုမစိုက်၊ အမိုက်အဖတ်တင်။
၂။ ဂရုမထားလျှင်၊ အမှုများမည်။
၃။ ဂဠုန်ပြည် ဂဠုန်၊ နဂါးပြည် နဂါး။
၄။ ဂါထာလူတိုင်းပေး၊ ဆေးဖြစ်တတ်သည်။
၅။ ဂါထာဟူက၊ ဉီပါမှ။
၆။ ဂါမဏိဆိုတိုင်း စစ်ဗိုလ်မမှတ်နှင့်။
၇။ ဂေါဏေဏ ဂေါဏော၊ သမဏေန သမဏော။
၈။ ဂန္ဓာရနှင့်တက္ကသိုလ်၊ စာဆိုချင်းမခြား။
၉။ ဂုဏ်နှင့်ဒြပ် ဟပ်မှ။
၁၀။ ဂုဏ်ပေါင်းမတွယ် ရှောင်စွယ်တုံး၊ ကုန်ရောင်းမသွယ် နောင်ဝယ်ရှုံး။
၁၁။ ဂုဏ်မရှိ မရှိသေ၊ ဂုဏ်ရှိ ရှိသေ။
၁၂။ ဂုဏ်မရှိ ယောက္ခမပင် အသိမလုပ်။
၁၃။ ဂုဏ်ရှိမှ လူရာဝင်၊ ဂုဏ်ထင်မှ လူခစား။
၁၄။ ဂျပိုး လိပ်ဖြစ်။
၁၅။ ဂြိုဟ်စီးဂြိုဟ်နင်း သိ၏၊ မရှောင်။
၁၆။ ဂွမ်းဗိုင်းကောင်းလျက်၊ ပုဆိုးဖျက်။

## (င)

၁။ ငကန်းသေ ငစွေပေါ် လိမ့်မည်။
၂။ ငကောင်းအတွက် ဝက်ကဒက်ခံ။
၃။ ငခွေး ငခွေးနှင့် အမွေးနှုတ်ခိုင်း။
၄။ ငပိန်မသာ၊ ငလိမ်မသာ။
၅။ ငရဲကလူ၊ ပြာပူမကြောက်။
၆။ ငရဲခွေးကို၊ ရဲဆေးတင်စရာမလို။
၇။ ငရဲပန်းကို ရွှေပန်းထင်။
၈။ ငရဲအိုးကို လက်ထိုးမိသည်။
၉။ ငရဲအိုးမသွားချင် အဝီစိသွား။
၁၀။ ငရုတ်တကိုက်၊ ထန်းလျက်တကိုက်။
၁၁။ ငရုတ်သီး ဆယ်တောင့်စားလို့ တထောင့်မစပ်။
၁၂။ ငရုတ်သီးမှုန့်၊ ခုနစ်လံ ရေငုပ်စား၊ စပ်သည်။
၁၃။ ငရုတ်သီးအထဲကပိုး၊ အစပ်မျိုးမကြောက်။
၁၄။ ငါနှင့်ငါသာ နှိုင်းစရာ။
၁၅။ ငါပြောသလိုလုပ်၊ ငါလုပ်သလို မလုပ်နှင့်။
၁၆။ ငါမပြောလား၊ နင့်ကျော ဖုတ်တွေပေ။
၁၇။ ငါမွေးသည့်မျောက်၊ ငါ့ကိုခြောက်။
၁၈။ ငါ့ဆေးဝင် ဖင်ပြင်။
၁၉။ ငါ့ထက်ရှိး၊ သူခိုးရှိတော့။
၂၀။ ငါ့နွားလည်းပျောက်၊ အမောင်လည်း ရောက်။
၂၁။ ငါ့ဖင် ဘယ်သူ့ချေးလဲ။
၂၂။ ငါ့မယုံ ငါ့မယားမေး။
၂၃။ ငါ့မြင်းငါစိုင်း၊ စစ်ကိုင်းရောက်ရောက်။
၂၄။ ငါ့လှေငါထိုး၊ ပဲခိုးရောက်ရောက်။
၂၅။ ငါ့ရှုးငါ့ပတ်။
၂၆။ ငါ့သမီးတော်လှ ဆို၍ ယောက်မ မြင်းစီးထွက်သည်။
၂၇။ ငါ့သား ထမင်းနဲ့မစားဘူးဆို၊ ပျဉ်တောင်ကွယ်၍လွေး။
၂၈။ ငါးကင် ကြောင်စားသည် မနှမြော။ မယားတန်ကြောင်း လူသိမည်သာ စိုးသည်။
၂၉။ ငါးကြော်တွေ့၍မှမနိုက် ကြောင်မိုက်။
၃၀။ ငါးကြင်းဆီနှင့်ငါးကြင်းကြော်။

၃၁။ ငါးခုံးမတကောင်ကြောင့် တလှေလုံးပုပ်။
၃၂။ ငါးစင်းပြား ငယ်သော်လည်း ပင်လယ်ကူးနိုင်၏။
၃၃။ ငါးစိမ်းမြင်၊ ငါးကင်ပစ်။
၃၄။ ငါးစိမ်းသည်အလေး နှစ်ချင်ရွေး။
၃၅။ ငါးတကာယိုတဲ့ချေး ပုဇွန်ဆိတ်ခေါင်းစု။
၃၆။ ငါးတုလို့ ခရုပွက်၊ အိုင်ပျက်။
၃၇။ ငါးတုလို့ ခရုလယ်၊ အိုင်ကျယ်။
၃၈။ ငါးတစ်ကိုသာမြင်၊ ကျော့ကွင်းမမြင်။
၃၉။ ငါးနှင့်မန်ကျည်းသီး ချက်၍ထား၊ ချဉ်ရည်လားလို့သောက်မိ။
၄၀။ ငါးပိစားက၊ သွားကျိုးလွယ်။
၄၁။ ငါးပိနှင့်လောက်၊ ရွှေနှင့်ကျောက်။
၄၂။ ငါးပိဖုတ်နှင့် ထမင်းမြိန်နိုးနိုး။
၄၃။ ငါးပိဖုတ်ပင် ဆရာမပြ၊ နည်းမကျ။
၄၄။ ငါးပိဖုတ် မျက်နှာသာပေး၊ ရွှေရေး ပန်းကန်တက်။
၄၅။ ငါးပိဖုတ် ရွှေပုဝါနှင့် ထုပ်သလို။
၄၆။ ငါးပိဖြစ်ပြီးမှ အမြီးနှံ့၍မရ။
၄၇။ ငါးပိရှိ အကောင်ကောင်၊ အစရှိ အနောင်နောင်။
၄၈။ ငါးပျံတလှည့်၊ ဗုံလုံတလှည့်။
၄၉။ ငါးပြေမ ဆားပက်သလို။
၅၀။ ငါးပြေမ၊ မီးခဲပေါ် ကျသလို။
၅၁။ ငါးပွက်ရာ ငါးစာချ။
၅၂။ ငါးဖယ်က အရိုးများသည် ပြောသလို။
၅၃။ ငါးမြင်တော့ တံငါဆွေမျိုးမှန်းမသိ။
၅၄။ ငါးမှာ ငါးသလောက်၊ မယားမှာ ဆံတောက်။
၅၅။ ငါးများသူကို တီတူးရာက မြင်သည်။
၅၆။ ငါးရံ့ရ အတူတူ၊ ငါးခူရ ခွဲခြမ်းခွဲခြမ်း။
၅၇။ ငါးရိုးမျက်၊ လက်တို။
၅၈။ ငါးလိုလျှင် ရေမှာရှာ၊ ဥစ္စာလို မြို့ရွာမှာရှာ။
၅၉။ ငါးလွန်မှ ကွန်ပစ်။
၆၀။ ငါးသိုင်းများ ဟင်းဟုံ။
၆၁။ ငါးအနွေး၊ ပုဇွန်အကွေး။

၆၂။ ငါးအိုင်ဆေးခတ်၊ တဖြတ်ဖြတ်ပေါ်။
၆၃။ ငိုချင်လျက် လက်တို့။
၆၄။ ငိုတတ်သည့်ကလေး နို့စို့ရ။
၆၅။ ငိုအားထက် ရယ်အားသန်။
၆၆။ ငယ်ကချစ်၊ အနှစ်တရာ၊ မမေ့သာ။
၆၇။ ငယ်ကပေါင်း၊ အနှစ်တသောင်း၊ မမေ့ကောင်း။
၆၈။ ငယ်တတ်မှကြီး၊ ဝယ်တတ်မှပြီး။
၆၉။ ငယ်နိုးငယ်နိုးနှင့် မုတ်ဆိတ်ဖြူ အိုးမည်းဆိုး။
၇၀။ ငယ်လျှင်ချို၊ ကြီးလျှင်မို့။
၇၁။ ငယ်သာငယ် နာမည်တုတ်ကြီး။
၇၂။ ငယ်သာငယ် အမယ်ပဥ္စင်းဘဲ။
၇၃။ ငယ်ဦးမှကြီးတတ်သည်။
၇၄။ ငုတ်မိသဲတိုင်၊ တတ်နိုင်ဖျားရောက်။
၇၅။ ငုံးကလေး၊ တနေ့သော် အမြီးရှည်နိုးနှင့် စောင့်။
၇၆။ ငုံးဆူ လူမသိ၊ အုံ့ပုန်းပူ လူမသိ။
၇၇။ ငြောင့်ကြီးငါးစင်း၊ လူခပင်း မနှုတ်နိုင်။
၇၈။ ငွေကဲရွှေကဲထက်၊ လူကဲခတ်ခက်။
၇၉။ ငွေစားသည့်တရားခံ၊ ငရဲမီးအုံ။
၈၀။ ငွေတပဲနှင့် ငါးကြင်းခေါင်းကိုင်။
၈၁။ ငွေတပဲနှင့် ပုလဲကုံးကိုဆိုင်။
၈၂။ ငွေတပဲ လည်မှာဆွဲရ၍ ဝိဒေဟရာဇ် ပုတ်သင်မာန်ဝင်။
၈၃။ ငွေထုပ်လူခိုး၊ အဖိုးကြီး အဖတ်တင်။
၈၄။ ငွေမရှိ ကတိမတည်။
၈၅။ ငွေများ တရားနိုင်။
၈၆။ ငွေအကဲ၊ ပန်းပဲမသိ။
၈၇။ ငှက်ခြေရာ၊ အဇတာမထင်။
၈၈။ ငှက်တကောင်၊ မြားတစင်း။
၈၉။ ငှက်တို့မည်သည် ပျံယင်းသေ။ လူတို့မည်သည် ကြံယင်းသေ။
၉၀။ ငှက်တုံးကြီး၊ အမြီးပေါက်နိုးနိုး။
၉၁။ ငှက်ပျောပင်စိုက်၊ မိလိုက်ဖပါ။
၉၂။ ငှက်ပျောပင်ရိပ်ခိုသည့်ကျွဲ၊ ငှက်ပျောပင်လှဲ။

၉၃။ ငှက်ပျောပင် အနှံမရှိ။
၉၄။ ငှက်မရခင်၊ ရှဉ့်ရှာ။
၉၅။ ငှက်မသိက ဆက်ရက်ချိုးထင်။
၉၆။ ငှက်သရဲ နဲ့ကောမိ၊ လူသရဲ ဘေးဒဏ်ထိ။
၉၇။ ငှက်၏ တန်ခိုး ဈာန်ကောင်းကင်ယံ၊ လူ၏ တန်ခိုး ဈာန်လေယာဉ်ပျံ။

(စ)

၁။ စကားကောင်း၊ ဒိန်းဒေါင်းဖျက်။
၂။ စကားကို ဆိုခဲစေ၊ မြဲစေ။
၃။ စကားကျုံ့သော် နှုတ်မရ၊ ခြေကျုံ့သော် နှုတ်ရ။
၄။ စကားချိုစေ၊ သူလိုစေ။
၅။ စကားခြောက်ခွန်း၊ လူ့ဘွဲ့ထွန်း၊ လေးခွန်းကိုပယ်၊ နှစ်ခွန်းတယ်။
၆။ စကား စကား၊ ပြောပါများ၊ စကားထဲက ဇာတိပြ။
၇။ စကားစည်မြည်၊ သူတော်ရည်။
၈။ စကားဆို၊ တောင်လိုမမောက်နှင့်။
၉။ စကားဆိုထွေ၊ သူလိုစေ။
၁၀။ စကားဆိုလျှင်း၊ မထန်ပြင်းနှင့်။
၁၁။ စကားဆိုသော် မတင်းနှင့်၊ တရားလိုသော် မငြင်းနှင့်။
၁၂။ စကားတပြောပြောနှင့် လယ်ကော ရေမရ။
၁၃။ စကားတင်စီးနှင့် အီးလေတင်ကပေါက်။
၁၄။ စကားတတ်၏ ပါဌ်ကားမပြေ။
၁၅။ စကားနောက်၊ တရားပါ။
၁၆။ စကားပြောလည်း အချိတ်နှင့်၊ ဆံထုံးလည်း အမြိတ်နှင့်။
၁၇။ စကားမတတ်၊ ထုံးကိုမှတ်။
၁၈။ စကားများက၊ အကြားကတ်။
၁၉။ စကားများ၊ အမှားပါ။
၂၀။ စကားမို့ဆို၊ ပျားသို့ချို၊ တမာမို့ခါး၊ ပိန်းမို့ယား။
၂၁။ စကားလွန်၊ ကျွန်ဖြစ်။
၂၂။ စကားအရာ၊ အင်္ဂါလေးတန်။
၂၃။ စကြာမင်းပတ္တမြား၊ ဆင်းရဲသား မဆောင်နိုင်။

၂၄။ စပါးကြီးကို လင်းမြွေပတ်။
၂၅။ စပါးစပါး၊ ထောင်းပါများ၊ စပါးထဲက ဆန်စေ့ရ။
၂၆။ စပါးမှာ စကုဗျပ်၊ မယားမှာ တခုလပ်။
၂၇။ စပါးလည်းကျ၊ ကောက်ရိုးလည်းရ။
၂၈။ စပယ်ကောင်းလျှင် တပွင့်၊ အရွယ်ကောင်းလျှင် အသင့်။
၂၉။ စပယ်ကောင်းလျှင် ပန်ချင်သူများသည်။
၃၀။ စဖိုခုံလောက်ကို ကျောက်စီမနေနှင့်။
၃၁။ စဖိုအုတ်၊ ရွှေသုတ်၍စီ။
၃၂။ စမုန်နက်၊ ဆေးဘက်ဝင်။
၃၃။ စရပ်ပေါ်က လူနာ၊ ဆေးဆရာမကုချင်။
၃၄။ စလယ်ဝင် ဖင်မမဲခင်က ကွဲရချက်နာ။
၃၅။ စာကလေးတဆိတ်စာ၊ မြေသြဇာမဖြစ်။
၃၆။ စာချွန်သော်လည်း လူချွန်မှ။
၃၇။ စာတတ်၊ စာမှတ်ဖျက်သည်။
၃၈။ စာတတ်လို စာအိုဖတ်။
၃၉။ စာအတတ်ကျူး၊ စာရူးဖြစ်။
၄၀။ စာမတတ်၊ ကြပ်ကြပ်အံ။
၄၁။ စာမတတ်၊ လမ်းမှာဖတ်။
၄၂။ စာမတတ် အကန်း၊ ယက်ကန်းမတတ် အကျိုး။
၄၃။ စာမရှိမျိုး မှင်ဆံတချောင်း အကျွတ်မခံ။
၄၄။ စာမှာအအံ၊ ဗေဒင်မှာအကြံ။
၄၅။ စာသူငယ် ပြောင်းကိုမလေး။
၄၆။ စာဥဒေါင်းအုပ်၊ ဒေါင်းဥ စာအုပ်။
၄၇။ စားကားစား၏ မဝ၊ ပေးကား ပေး၏ မရ။
၄၈။ စားခါနီးထမင်းပွဲ၊ ကြောင်လှဲ့။
၄၉။ စားခြင်းလက်တဆစ်၊ ဆိုခြင်း မှိုကိုးနှစ်။
၅၀။ စားစရာတွင် အစားခက်၊ ထားစရာတွင် မယားခက်။
၅၁။ စားပြီး ခွက်မှောက်။
၅၂။ စားရကံကြုံတော့ မုတ်ဆိတ်ပျားစွဲ။
၅၃။ စားရပါ မြီးသလောက်မျှ မကောင်း။
၅၄။ စားရပြန်လည်း တလုပ်တဆုပ်၊ ဝတ်ရပြန်လည်း အစုတ်အနုတ်။

၅၅။ စားရမည့်အမဲ၊ သဲတရှပ်ရှပ်။
၅၆။ စားရမှာလည်း သဲနှင့်ရှပ်ရှပ်၊ ပစ်ရမှာလည်း အဆီနှင့်ဝင်းဝင်း။
၅၇။ စားလို့ပုဆွန်းလုပ်၊ အိပ်လိုရဟန်းလုပ်။
၅၈။ စားလို့မငြီး၊ ကနစိုးသီး။
၅၉။ စိကုပ်၍ နတ်ပြည်တင်။
၆၀။ စိစိစိုနှင့် ကြောင်ယိုသည့်ချေး။
၆၁။ စီးသည်ရေ၊ ဆည်သည့်ကန်သင်း။
၆၂။ စုတာတ်မှ အဖတ်တင်။
၆၃။ စူဠလိပ် ရေထဲလွှတ်သလို။
၆၄။ စူးနေရာစူး၊ ဆောက်နေရာဆောက်။
၆၅။ စေတနာပို၍ ဘောင်းဘီတို။
၆၆။ စေတနာလွန်၊ ကျွန်ဖြစ်။
၆၇။ စေတီမှန်းထား မြတ်ဘုရား၊ တည်ထားကောင်းလျက် ညောင်ပင်ဖျက်။
၆၈။ စေတ့်ကျွန်၊ ထွန်တဲ့နွား။
၆၉။ စေ့စေ့တွေး ရေးရေးပေါ်။
၇၀။ စေးမှကပ်၊ ကပ်မှစေး။
၇၁။ စိုစိုနှင့်နံသည့်ကြောင်ချေး။
၇၂။ စိုသည့်လက် မခြောက်စေနှင့်။
၇၃။ စို့လည်းစိုရ၊ ပို့လည်း ပို့ရ။
၇၄။ စိုးနိုင်သော်လည်း၊ ပိုင်ခဲသည်။
၇၅။ စက်စက်ယိုအောင် လှသော်လည်း၊ ပျက်ပျက်ပြိုအောင် ကျသည်။
၇၆။ စင်လိုလျှင်ဆေး၊ သိလိုလျှင် မေး။
၇၇။ စစ်မရောက်ခင် မြားကုန်။
၇၈။ စစ်ရောက်မှ မြားချွန်၊ မိုးလွန်မှ ထွန်ချ။
၇၉။ စစ်ဦး ဘီလူးပါ။
၈၀။ စည်ကြီးကို လက်သီးနှင့်ထု။
၈၁။ စည်တီးရာ၊ အီးမှောင့်။
၈၂။ စည်မှများ၊ စားမှဝသည်။
၈၃။ စည်သားရေ ခွေးမျှော်။
၈၄။ စည်းစိမ်လို ဒါန၊ ချမ်းသာလို သီလ။
၈၅။ စိတ်တခုနိုင်က ကိလေသာ အကုန်ငြိမ်းသည်။

၈၆။ စဏ္ဍာလလက် အလောင်းရောက်။
၈၇။ စိတ်တူတသက်မွေ့၊ စိတ်မတူ တသက်မေ့။
၈၈။ စိတ်တူသင်ဖြူး၊ စိတ်မတူ ရှောက်ဆူး။
၈၉။ စိတ်အတွေ့အာကာ၊ စိတ်မတွေ့ဗာလာ။
၉၀။ စိတ်ထားတတ်၊ မြတ်။
၉၁။ စိတ်နောက် ကိုယ်ပါ။
၉၂။ စိတ်ပန်း ကိုယ်ကျေ။
၉၃။ စိတ်ပေါင်းကိုယ်ခွာ။
၉၄။ စိတ်ပျို ကိုယ်နု။
၉၅။ စိတ်မဆိုး ကျွဲမြီးတို။
၉၆။ စိတ်မတတ်၊ ကိုယ်နွမ်း။
၉၇။ စိတ်မွေ့ ကိုယ်ခြောက်။
၉၈။ စိတ်ရှိ ကန့်ပလူ၊ စိတ်မရှိ ကြက်သွန်ဖြူ။
၉၉။ စိတ်ရှိသကာ၊ စိတ်မရှိ တမာ။
၁၀၀။ စိတ်လိုသော် တောင်ပို့ လက်ရှစ်ကသည်။
၁၀၁။ စိတ်သာရှင်စော ဘုရားဟော။
၁၀၂။ စိန်ကဲ ကျောက်ကဲထက် လူကဲခတ်ခက်။
၁၀၃။ စိန်ကောင်း ကျောက်ကောင်း ရောင်းရာ ဆေးရိုးသည်ကန့်လန့်။
၁၀၄။ စိန်နားကပ်ကြောင်း ပါးပြောင်။
၁၀၅။ စိန်အမှောင်၊ ကြောင်အလင်း။
၁၀၆။ စုတ်မှန်း၊ လာဘ်မှန်း၊ ဥပါဒ်မှန်းမသိ။
၁၀၇။ စောက်ထိုးပြော၊ ခေါက်ချိုးနားလည်။
၁၀၈။ စောက်မှန်းမသိ၊ ကမ်းမှန်းမသိ။
၁၀၉။ စောင်ကောင်းကိုရှာ၊ ဖလံနယ်တွေ့။
၁၁၀။ စောင်ခြုံထဲက လက်သီးပြ။
၁၁၁။ စောင်ဖြူ စောင်ကြားခြုံမလုံ၊ မေတ္တာခြုံမှလုံ။
၁၁၂။ စောင်မပါ အမေ့ရွာတောင် မသွားနှင့်။
၁၁၃။ စောင်းသံကြား ဆင်ပျော်။
၁၁၄။ စိုက်တတ်မှရှင်၊ ထွင်တတ်မှ ရှင်း။
၁၁၅။ စိုက်ရှင်ကိုပစ်၊ စိုင်သစ်ရှာ။
၁၁၆။ စိုင်သင်တဲ့မုဆိုး၊ ပညာတိုး။

၁၁၇။ စိုင်ကော်လို့ ခြုံပေါ် ရောက်။
၁၁၈။ စွမ်းမှနိုင်၊ ပိုင်မှချုပ်သည်။

## (ဆ)

၁။ ဆရာကိုလွန်သော် ရှုံးသည်။
၂။ ဆရာချင်းတူ၊ နည်းချင်းမတူ။
၃။ ဆရာထက် တပည့်လက်စောင်းထက်။
၄။ ဆရာမပြ၊ နည်းမကျ။
၅။ ဆရာများ၊ သားသေ။
၆။ ဆရာမှန်၊ အလံစိုက်စရာမလို။
၇။ ဆရာလည်းဝေး၊ ဆေးလည်းပြယ်။
၈။ ဆာလေငတ်လေ၊ ငတ်လေဆာလေ။
၉။ ဆားငန်ရေ သောက်လေ ငတ်မပြေ။
၁၀။ ဆားနှင့်ဆပ်ပြာ၊ ခပ်ပြာနှင့်ရွှေ။
၁၁။ ဆားနှင့်ခါးလဲသလို။
၁၂။ ဆားမစားရ ဟင်းခတ်သည်နှင့်ကုန်။
၁၃။ ဆားမပါဘဲ ပျက်သိသိ။
၁၄။ ဆားလျှော့ ဆန်တိုး။
၁၅။ ဆီပွတ်ကျည်ပွေ့၊ ဆင်ဝှေ့ရန်ရှောင်။
၁၆။ ဆုတောင်းတိုင်းပြည့်လျှင် လူပြည်လူပင်မရှိ။
၁၇။ ဆူတတ်မှ ဆဲတတ်။
၁၈။ ဆူးကိုမွှေရာ။
၁၉။ ဆူးကျဖက်ပေါက်၊ ဖက်ကျဖက်ပေါက်။
၂၀။ ဆူးကြားသီးတဲ့ဗူးသီး၊ မကြီးနိုင်။
၂၁။ ဆူးစူးရာ ဝမ်းကျ။
၂၂။ ဆူးကမစူး၊ ဖဝါးကစူး။
၂၃။ ဆေးကောင်း သန်းခေါင်း။
၂၄။ ဆေးကောင်းလျှင်၊ အင်းစောင်း။
၂၅။ ဆေးကျရာ အရှုပ်ဖြစ်။
၂၆။ ဆေးစာဖတ်ရာ နားထောင်ပါ၊ ရောဂါပျောက်နိုးနိုး။

၂၇။ ဆေးထိုးမှား၊ နွားစိတ်ပေါက်။
၂၈။ ဆေးမစွမ်းကြောင်း၊ သရဲကြမ်းမှသိ။
၂၉။ ဆေးမှားလျှင် အကုစားခက်။
၃၀။ ဆေးလည်းအစာ၊ အစာလည်း ဆေး။
၃၁။ ဆေးသမား မထောင်းတာ၊ လူနာ မခံချိ။
၃၂။ ဆဲတာနှင့် ဆန်ချေးချေ။
၃၃။ ဆယ့်နှစ်မှုပွေ၍ ရေကြည်ထမ်းမှ၊ ရေချမ်းမှုတိုး။
၃၄။ ဆံထုံးထုံး ဆီစိုက်။
၃၅။ ဆိုခဲစေ၊ မြဲစေ ဆိုလွယ်စေ၊ ပြယ်စေ။
၃၆။ ဆိုတော့မလိုလိုနှင့်ဖုံး၊ ငိုတော့မလိုလိုနှင့်ပြုံး။
၃၇။ ဆိုဖန်များ၊ မယားစကားအောင်။
၃၈။ ဆိုမှပြီး၊ သီးမှမှည့်၏။
၃၉။ ဆိုလေကဲလေ၊ မန်းလေပြဲလေ။
၄၀။ ဆိုလျှင်အောက်၊ နေလျှင်နောက်။
၄၁။ ဆိုးတူကောင်းဘက်။
၄၂။ ဆိုးလျှင်လှန်၊ ကောင်းလျှင်ခံ။
၄၃။ ဆင်ကိုလို၍ မြီချေး၊ ခွေးနှင့်နှိမ်။
၄၄။ ဆင်ကိုသတ်၊ အရပ်ဝေသည်။
၄၅။ ဆင်ကန်းတောတိုး။
၄၆။ ဆင်ကျီစားရာ ဆိတ်မခံသာ။
၄၇။ ဆင်ကျီစား၊ အလကားမမှတ်နှင့်။
၄၈။ ဆင်ကျောက်ကုန်းက ဝန်သာမကြည့်နှင့်၊ ဆင့်ပါးစပ်လည်း သွင်းရမည်။
၄၉။ ဆင်ကြမ်းကကျုံး၊ လူကြမ်းကရုံး။
၅၀။ ဆင်ကြို၊ ကျွဲလောက်ကျန်။
၅၁။ ဆင်ခေါင်း ခွေးမချီနိုင်။
၅၂။ ဆင်ချည်သောကြိုးနှင့် ကြက်ကို ချည်သော် လွတ်၏။
၅၃။ ဆင်စီး၍ မြင်းရှံသည်ကိုသာ မြင်လို၏။
၅၄။ ဆင်စီးလိမ္မာ၊ ချွန်းသာအုပ်သည်။
၅၅။ ဆင်စွယ်မီးလောင်၊ ကျီးကောင် အဆီမရှာနိုင်။
၅၆။ ဆင်စွယ်မှန် ပိုးမထိုး။
၅၇။ ဆင်စွယ်သို့ကျင့်၊ ဆင်သို့မကျင့်လေနှင့်။

၅၈။ ဆင်နောက် ခွေးပါ။
၅၉။ ဆင်ပေါ် ကလူ ခွေးဟောင်။
၆၀။ ဆင်ပိန် ကျွဲလောက်။
၆၁။ ဆင်ပေါက် ကောက်ရိုးခိုး။
၆၂။ ဆင်ပြ ဆန်တောင်း။
၆၃။ ဆင်ပြောင်ကြီး အမြီးကျမှတစ်။
၆၄။ ဆင်ဖြူတော်ပြုတ်စားဆို၊ အိုးခြင့်ယုံ။
၆၅။ ဆင်ဖြူတော်မှီ ကြံစုတ်။
၆၆။ ဆင်ဖြူမျက်နှာ ဆင်မဲမကြည့်ဝံ့။
၆၇။ ဆင်ဖြူဝင်မှာ၊ ချည်တခင်နှင့် ကျိန်းကျေ။
၆၈။ ဆင်တို့ကျင်ငယ်၊ ယုန်တို့ပင်လယ်။
၆၉။ ဆင်ဘိုးထက်၊ ချွန်းဘိုးကြီး။
၇၀။ ဆင်မကြောက်၊ ဖိနပ်ဖြစ်မည်။
၇၁။ ဆင်လည်း ဆင့်အတောင်၊ ဆိတ်လည်း ဆိတ်အတော်။
၇၂။ ဆင်လိုက်မှ သစ်ပင်ရှာ။
၇၃။ ဆင်ဝန်ကတော် အကြောင့်ကြမျိုး။
၇၄။ ဆင်ဝန်မင်းအရိပ်နှင့် ဖောင်ဆိပ်မမြတိုက်။
၇၅။ ဆင်ဝှေ့ရန်ရှောင်။
၇၆။ ဆင်သေ သားရေနှင့်ဖုံး။
၇၇။ ဆင်သွားရာ ကျွားပါ။
၇၈။ ဆင်အပေါင်းတွင် ဧရာဝဏ်။
၇၉။ ဆင်ဦးခေါင်းထက် ဆိတ်ဦးခေါင်းကြီး။
၈၀။ ဆင်အိပ်ရာ ဆိတ်နိုး။
၈၁။ ဆင့်နားရွက် ဝက်တပ်။
၈၂။ ဆင့်ပါးစပ် နှမ်းပက်။
၈၃။ ဆင့်ဗိုက် ခွေးမျှော်။
၈၄။ ဆင်းရဲ ငရဲမကြောက်။
၈၅။ ဆင်းရဲတခါ၊ ချမ်းသာတလှည့်။
၈၆။ ဆင်းရဲလေလေ၊ သံဝေရရ။
၈၇။ ဆင်းရဲရှေ့ ချမ်းသာနောက်။
၈၈။ ဆင်းရဲသား မင်းဖြစ်။

၈၉။ ဆည်ဝ ဗျိုင်းစောင့်။
၉၀။ ဆန်ကောမမည်၊ ဆန်ခါမမည်။
၉၁။ ဆန်ကောမှာ၊ ထောက်ရှာ၍ မတွေ့။
၉၂။ ဆန်ကောလောက်မှ၊ စောက်မနက်။
၉၃။ ဆန်ကုန် မြေလေး။
၉၄။ ဆန်ကောင်း မြက်သီးခတ်၊ ပြုတ်ဆတ်ဆတ်။
၉၅။ ဆန်ခိုး မမိ၊ ဖွဲခိုးမိ။
၉၆။ ဆန်စင်ရာ ကျည်ပွေ့လိုက်။
၉၇။ ဆန်ဆေးယင်း သေးပေါက်။
၉၈။ ဆန္ဒကြီးလျှင်၊ ကြံသမျှ ပြီး၏။
၉၉။ ဆန်ပါ၍ ထမင်းရေ သောက်ရ၊ ခွေးပါလျှင် ငတ်ရဲ့။
၁၀၀။ ဆန်ပေးမှ ဆေးရ၊ သမီးပေးမှ သမက်ရ။
၁၀၁။ ဆန်ဖြူဆန်ကောင်း ထောင်းမှသိ။
၁၀၂။ ဆန်မရှိ အစားကြီး။
၁၀၃။ ဆန်ရင်း နာနာဖွပ်။
၁၀၄။ ဆန့်မှရှည်၊ ကြည်မှ ရှင်သည်။
၁၀၅။ ဆန်းလွန်းလျှင် ရိုး။
၁၀၆။ ဆပ်ပြာကောင်း၍ ခေါင်းပေါင်းဖြူ။
၁၀၇။ ဆပ်ပြာသည် လင်ပျောက်သလို။
၁၀၈။ ဆပ်သွားဖူး ဆူးကဖျက်။
၁၀၉။ ဆယ်ရေးတရေး၊ ကိုးရေးတရာ။
၁၁၀။ ဆိတ်ချေးတရာ၊ ဆင်ချေးတတုံး။
၁၁၁။ ဆုပ်လဲစူး၊ စားလဲရှူး။
၁၁၂။ ဆောက်ဖြစ်မှ ကျောင်းတကာ။
၁၁၃။ ဆိုက်လိုရာဆိုက်၊ တိုက်လိုရာ တိုက်။
၁၁၄။ ဆိုင်းချလို့ ချမှန်းမသိ။
၁၁၅။ ဆွေကောင်းတစလောင်း၊ မျိုးကောင်း တစလယ်၊ လုပ်မှကြွယ်။
၁၁၆။ ဆွေချင်းခြဲ လုံ၊ မျိုးချင်းထပ် မြတ်။
၁၁၇။ ဆွေးသာဆွေး၊ အရေးမလှ။
၁၁၈။ ဆွတ်မှ စို၊ ပျိုမှ နုသည်။
၁၁၉။ ဆွမ်းခံယင်း ငှက်သင့်။

၁၂၀။ ဆွမ်းခြောက်ဝေးဝေးလံ၊ ဆွမ်းဆန်နီးနီး။
၁၂၁။ ဆွမ်းဆန်ထဲ ကြွက်ချေးရော။
၁၂၂။ ဆွမ်းတော်ထက် ဝမ်းတော်ခက်။
၁၂၃။ ဆွမ်းမမက်၊ ကွမ်းမက်။

(ဇ)

၁။ ဇာတသတ်ကို ဒေဝဒတ်ဖျားယောင်း။
၂။ ဇာတိကို သိချင်၊ အမြင်နှင့် မဆုန်းဖြတ်နှင့်။
၃။ ဇာတိအားကိုး၍ အမျိုးစွန့်ခဲ့သည်။
၄။ ဇာတိပုည ဂုဏ်မာန။
၅။ ဇာတိမာန် ခက်ထန်၍ ဈာန်မရသလို။
၆။ ဇိကုပ်နတ်ပြည်တင်။
၇။ ဇက်မကိုင်သောမြင်း၊ ကန်သင်းမရှိသောလယ်။
၈။ ဇာတ်ကြီးဆယ်ဖြာ၊ ရင့်မာတကျိပ်။
၉။ ဇာတ်ချင်းမတူလည်း မေတ္တာပဓာန။
၁၀။ ဇာတ်တူသားစား ဟသ်ာကိုးသောင်းပျက်။
၁၁။ ဇာတ်တွင်အစ၊ နာရဒ။
၁၂။ ဇာတ်ပျက်မှာထက် ငတ်မှာခက်။
၁၃။ ဇာတ်မပါ၊ ဒေသနာခြောက်။
၁၄။ ဇမ္ဗူခြေကန်၊ နံရံခေါင်းဆိုက်။
၁၅။ ဇမ္ဗူဒိပ်၊ နိမိတ်။
၁၆။ ဇမ္ဗူ၊ မတူ၊ တလူ။

(ဈ)

၁။ ဈာနေနဈာန်၊ ဉာဏေန ဉာဏ်။
၂။ ဈာပန၊ ပြာကျမှ ပြန်တမ်း။
၃။ ဈေးကိုလူမရောင်း၊ လူကို ဈေးကရောင်း။
၄။ ဈေးစကား၊ အပွားပို။
၅။ ဈေးစပါးမျိုးလုပ်၊ အကျိုးယုတ်။
၆။ ဈေးစပါး၊ အဖျင်းများ။

၇။ ဈေးတောင်းခေါင်းရွက်၊ ရွာစဉ်ထွက်။
၈။ ဈေးမတတ်ရွာနှန်း၊ ဆံထုံးမတတ် ရွာဓလေ့။
၉။ ဈေးမှာအငှါး၊ စရပ်မှာ အစား။
၁၀။ ဈေးသည်မ ခံတောင်း၊ သောင်းပြောင်းပါ။
၁၁။ ဈေးသည်ဝမ်း၊ သွားရည်စာမခန်း။
၁၂။ ဈာန်ကိုလို၊ ကိုယ်ကိုကျင့်။
၁၃။ ဈာန်ဝင်စား၊ တရားသိမ်မွေ့။

## (ည)

၁။ ညခါလည်း မလာနှင့်၊ အမှုလည်း မရှာနှင့်။
၂။ ညပြော အောက်ကြည့်၊ နေ့ပြော နောက်ကြည့်။
၃။ ညာတကာနည်း၊ ညာတာနှင့်ကုန်။
၄။ ညားတော့ဈေးသယ်၊ ရွယ်တော့မင်းမျိုး။
၅။ ညီညာမှ၊ ပြည်သာသည်။
၆။ ညီမှာမရီး၊ ကိုကြီးသမင်။
၇။ ညက်မှထွေး၊ ရေးမှထင်သည်။
၈။ ညောင်ကဲ့သို့ကျင့်၊ ကြောင်ကဲ့သို့ကျင့်။
၉။ ညောင်ကိုင်းကိုချိုး၊ ရွှေအိုးရ။
၁၀။ ညောင်စေ့လောက်လှူ၊ ညောင်ပင်လောက်ရ။
၁၁။ ညောင်ပင်ကြီးအောက်၊ ညောင်ပင်လေး မပေါက်။
၁၂။ ညောင်မြစ်တူး၊ ပုတ်သင်ဥပေါ်။
၁၃။ ညောင်ပင်လောက်လှူ၊ ညောင်စေ့လောက်ရ။
၁၄။ ညောင်သီးလဲစားပါ၊ တူးသံလဲ နားထောင်ပါ။
၁၅။ ညောင်ဦးက ကမ်းပါးပြို၊ စမ္ပါနဂိုက နွားမပေါင်ကျိုး။

## (တ)

၁။ တကောင်ကြွက်၊ တမျက်နှာ။
၂။ တကျမ်းတဂါထာ၊ တရွာ တပုဒ်ဆန်း။
၃။ တကျွန်းစီနေ၊ တမြေစီခြား။
၄။ တခါခိုး၊ ကိုးခါမိ။

၅။ တခါဆက်ဆံ၊ ဆယ်ခါလန်။
၆။ တခါမွေး၊ ငါ့သွီး မယ်ဒွေး ဈေးတင်ဘို့။
၇။ တခါလာ မဲပြာပုဆိုး။
၈။ တခါသေဘူး၊ ပျဉ်ဘိုးနားလည်။
၉။ တခိရှာ၊ တခါရှိပြီ။
၁၀။ တခုလပ်ရှာ၊ တလင်ကွာတွေ့။
၁၁။ တချက်ခုတ်၊ နှစ်ချက်ပြတ်။
၁၂။ တခြိုက္ကယ်၊ တမယ်မေ့။
၁၃။ တဆိတ်တဆိတ်နှင့် ကြာလျှင် တပည့်အိတ်လေးသည်။
၁၄။ တဆိတ် တအိတ်လုပ်။
၁၅။ တဆုပ်ကျွေးဘူး၊ သူ့ကျေးဇူး။
၁၆။ တညလုံး ကတော်သည့်ကြက်၊ ဥတော့တလုံး။
၁၇။ တညလုံးကြိုးစား၊ ဖျာပေါ် မှာချည်း။
၁၈။ တတိတတိနှင့် တောင်ဝှေး လက်တဆစ်ကျန်။
၁၉။ တတော တကြက်ဖတွန်။
၂၀။ တတက်စားလည်း ကြက်သွန်၊ နှစ်တက်စားလည်း ကြက်သွန်။
၂၁။ တထည်မပြီးခင် တစရှည်။
၂၂။ တနေ့ချွတ်၊ တလမွတ်
၂၃။ တနေ့တခြား၊ ရေနည်းငါး။
၂၄။ တနေ့တလံ၊ ပုဂံဘယ်ပြေးမလဲ။
၂၅။ တနေ့ရွှေ၊ တနေ့ငွေ။
၂၆။ တနွယ်ငင်၊ တစင်ပါ။
၂၇။ တပူပေါ် နှစ်ပူဆင့်။
၂၈။ တပဲတန်ကြောင့် တလှဲတန်ပျက်။
၂၉။ တပဲဖိုးလိမ္မာ၊ တကျပ်ဖိုးမိုက်။
၃၀။ တပင်လဲမူ၊ တပင်ထူ။
၃၁။ တပည့်ကောင်းမှန်၊ ပန်းကောင်းပန်။
၃၂။ တပည့်ညှာ ရင်နာ။
၃၃။ တပည့်မကောင်း ဆရာ့ခေါင်း။
၃၄။ တပည့်ရှာ၊ ဆရာတွေ့။
၃၅။ တပည့်လိမ္မာ၊ ဆရာအာပတ်လွတ်။

၃၆။ တပေါင်းတန်ခူး၊ မိုးသားကြူး။
၃၇။ တပေါင်းတန်ခူး ဝမ်းမနူးနှင့်။
၃၈။ တပြား နှစ်ပြားမှတ်၍ခွာ။
၃၉။ တမာနှင့်ထန်းလျက်၊ လက်ဖက်နှင့်မဲဇလီ။
၄၀။ တမာလို ခါးသော်လည်း၊ ပျားကဲ့သို့ချို။
၄၁။ တမူးရလို့ တပဲလှူ၊ ဒို့ရှမ်းတောင်သူ တူနိုင်ရိုးလား။
၄၂။ တမိုးလုံး ဖျောက်ဆိပ်ချည်း။
၄၃။ တမိုးအောက်၊ တယောက်။
၄၄။ တမင်းပြောင်းမှ တမင်းအကြောင်းသိ။
၄၅။ တမင်းလဲမှ တမင်းအကဲသိ။
၄၆။ တယောက်ကောင်းက၊ တသောင်းဗိုလ်ခြေ ညက်ညက်ကြေ။
၄၇။ တယောက်ကောင်းလျက် တယောက်ဖျက်။
၄၈။ တယောက်ကျေးဇူး တဦးမှာ။
၄၉။ တယောက်ချမ်းသာ၊ ကိုယ်တို့ရွာ၊ သတ္တဝါအပေါင်း၊ ဆင်းရဲကြောင်း။
၅၀။ တယောက်စကား၊ တရာကြား။
၅၁။ တယောက်တဖက်၊ ကျောင်းသားလက်။
၅၂။ တယောက်မကိုမြင်သော် တအိုးတန်ပျက်။
၅၃။ တရားခက်သော် ရက်ရှည်သွေး၊ ဖြေးဖြေးစီရင်။
၅၄။ တရားဆန်းလျှင်ရှုံး၊ စကားဆန်းလျှင် မုန်း။
၅၅။ တရားဆုံး၊ တုံးလုံးစက်တော်ခေါ်။
၅၆။ တရားတတ်၍ မဖြောင့်။
၅၇။ တရားတန်ဆာ၊ ကျွန်မှာမကင်းရာ။
၅၈။ တရားနာကောင်း၊ ကျောင်းကမပြန်။
၅၉။ တရားဖက်တော့ အမျက်ပြေ။
၆၀။ တရားလိုလျှင် ရှုံးကိုကပ်၊ စကားဆိုလျှင် ထုံးကိုမှတ်။
၆၁။ တရားလက်လွှတ်၊ ငှက်တောင်ကျွတ်။
၆၂။ တရားလိုက်က၊ ဘုရားကြိုက်သည်။
၆၃။ တရော လူလေ၊ ပုလွေ ကျဲကြောင်း၊ မင်းရာစောင်း။
၆၄။ တရပ်တည်းနေ၊ တရေတည်းသောက်။
၆၅။ တရပ်ပြည်အပ်ရောင်း။
၆၆။ တရွာ တကျီဆောက်။

၆၇။ တရွာထဲနေ၊ တရေထဲသောက်။
၆၈။ တရွာမပြောင်း၊ သူကောင်းမဖြစ်။
၆၉။ တရွာသွား တအားငယ်။
၇၀။ တရွာသွားတအားယုတ်၊ တခြတိုး ပုဆိုးစုတ်။
၇၁။ တလင်နေပွေးနှင့်၊ တလင်နေကြွေးနှင့်။
၇၂။ တလိမ်ပေါ် နှစ်လိမ်ရှုပ်။
၇၃။ တလုပ်ကျွေးဘူး၊ သူ့ကျေးဇူး။
၇၄။ တလှန်းပေါ် နှစ်လှန်းတင်။
၇၅။ တလှေထဲစီး၊ တခရီးထဲသွား။
၇၆။ တသားမွေး၊ တသွေးလှ။
၇၇။ တသားမွေး၊ တသွေးသွန်။
၇၈။ တသက်လုံးစားသည့်အစာ၊ သံပုရာတခြမ်းနှင့်ချေ။
၇၉။ တသက်လုံး ဖုံးသမျှ ကုန်းတော့မှပေါ်။
၈၀။ တဦးမေတ္တာ တဦးမှာ။
၈၁။ တာဝတိန်၊ ချိန်သော်ငြား၊ အပယ်ဆိုက်ဆိုက်သွား။
၈၂။ တီကို ဆားနှင့်တို့သလို။
၈၃။ တီကို လူရွံ၊ တီက လူကိုရွံ။
၈၄။ တုတိုင်းမတူ၊ တူတိုင်း မတုနှင့်။
၈၅။ တူကြီးလျှင်ပေ၊ လူကြီးလျှင်တေ။
၈၆။ တူသာလျှင်တူ၊ ပေသာလျှင်ပေ။
၈၇။ တူးရှင်းလို တူရင်းထက်။
၈၈။ တေခပ်ပြာကို၊ ရွှေနေရာမှာသုံးသော် အရောင်မလှ။
၈၉။ တဲသာဆို၊ အိမ်အိုမသာ။
၉၀။ တောခွေး ကျားမကြောက်။
၉၁။ တောစကား တောပျောက်၊ အိမ်စကား အိမ်ပျောက်။
၉၂။ တောစပါးလို အိမ်စပါးနှင့်ရင်း။
၉၃။ တောဆင် ခမည်းပေး။
၉၄။ တောမရောက်၊ တောင်မရောက်။
၉၅။ တောမီးလောင်၊ တောကြောင် လက်ခမောင်းခတ်။
၉၆။ တောမျောက် မိုးခို။
၉၇။ တောမျောက်သစ်ပင်၊ ထီမထင်။

၉၈။ တောသားမြို့ရောက် မျောက်ဖြစ်။
၉၉။ တောသားရဲ၊ ဆွဲထုတ်။
၁၀၀။ တောသားလည်းဆို၊ ဗိုက်မှာလည်း ရွှံ့နှင့်။
၁၀၁။ တောသစ်ပင့်ကို တောသစ်ခက်နှင့်ချူ။
၁၀၂။ တောသစ်သီးကို တောအုတ်ခဲနှင့်ပစ်။
၁၀၃။ တောဟင်းရွက်ကို တောသစ်ခက်နှင့်ချူ။
၁၀၄။ တောအကျိုး ယုန်သိ၊ ယုန်အကျိုး တောသိ။
၁၀၅။ တော်သလင်းနေ၊ ပုဇွန်သေ။
၁၀၆။ တော်သလင်း၊ မြစ်ရေသင်ဖြူးခင်း။
၁၀၇။ တံခွန်မလွှား ရထားမတင့်။
၁၀၈။ တံငါကို ပိုက်ထိုးသင်။
၁၀၉။ တံငါကိုအိမ်ဘက်ပြုသော်၊ အိမ်ပျက်၏။
၁၁၀။ တံငါနားနီး တံငါ၊ မုဆိုးနားနီ မုဆိုး။
၁၁၁။ တံငါ မိကျောင်းကို မလေး။
၁၁၂။ တံငါလို လှေဦးခြောက် ခြောက်သည်။
၁၁၃။ တံတားအို မှောင်ခိုမလျှောက်နှင့်။
၁၁၄။ တံထွေးခွက်၊ ပက်လက်မြော။
၁၁၅။ တို့ဘုရား မယားဘက် ခပ်ပါပါ။
၁၁၆။ တို့လေ ကုန်းလေ။
၁၁၇။ တက်ကောင်းမှ လှေပြေး။
၁၁၈။ တက်ကပ်မှာ ပညာ၊ ဆုတ်ကပ်မှာ ဥစ္စာ။
၁၁၉။ တက်မဲ့မီး၊ စဖို့မှာရဲရဲ။
၁၂၀။ တင်တော့ဘုရား၊ စားတော့ရွှေကျီး။
၁၂၁။ တင်ပေဘူးသည့်ကျေးဇူးရှိလျက် အဆပ်ခက်။
၁၂၂။ တင်းလွန်းလျှင်ပြတ်၊ လျှော့လွန်းလျှင် ပတ်။
၁၂၃။ တည်မိတဲ့ဘုရား၊ လင်းတနားနား။
၁၂၄။ တတ်ကားတတ်၏ မတူ၊ တူကားတူ၏ မတတ်။
၁၂၅။ တတ်ကားတတ်၏ အမှတ်မရှိ။
၁၂၆။ တန်ဆောင်မုန်း နတ်တော်၊ ကောက်လှော်စား။
၁၂၇။ တန်ဖိုးထက်၊ လက်ခကြီး။
၁၂၈။ တန်လျှင်ဆေး၊ လွန်လျှင်ဘေး။

၁၂၉။ တပ်ပျက် ဗိုလ်ခံ။

၁၃၀။ တိတ်တိတ်နေသော် ထောင်တန်၏။

၁၃၁။ တိတ်တိတ်နေဘိ သမ္မာဓိ။

၁၃၂။ တိမ်ရောင်နှင့်နက်၊ လွယ်ရောင်နှင့်ခက်။

၁၃၃။ တုံးကိုမိုးကြိုးပစ်၊ ပုတ်သင်ပါ။

၁၃၄။ တုံးဆိုတိုက်၊ ကျားဆိုကိုက်။

၁၃၅။ တုံးအောက်က တီတွန်။

၁၃၆။ တုံးလဲ ထင်းဖြစ်။

၁၃၇။ တုံးရာဓားမဟောင်း၊ ထက်ရာရေစောင်း။

၁၃၈။ တောက်သည့်တန်ဆောင်၊ တောင်ထိပ်မှထွန်း။

၁၃၉။ တောင်ကြီးဖဝါးအောက်၊ လှိုင်းကြီးလှေအောက်။

၁၄၀။ တောင်ငူလည်း တောင်ငူ၊ မောင်းထောင်လည်း မောင်းထောင်။

၁၄၁။ တောင်စဉ်ရေမရ။

၁၄၂။ တောင်ထိပ်ကြာပေါက်၊ အနောက်နေထွက်။

၁၄၃။ တောင်မင်း မြောက်မင်း မကယ်နိုင်။

၁၄၄။ တောင်ယာထဲ ခန္ဓဆင်။

၁၄၅။ တောင်ယာရှင် မျောက်မောင်း၊ အိမ်သည် ညှော်စောင်း။

၁၄၆။ တောင်လဲရာ မြက်ပြတ်။

၁၄၇။ တောင်သူ လှေနံဓားထစ်။

၁၄၈။ တောင်သူယာခုတ်၊ ကြက်ဆုတ်ခွပ်ပစ်။

၁၄၉။ တောင်အတက် လှည်းစည်းကုံးပြတ်။

၁၅၀။ တောင်းဆိုး ပလုံးဆိုးသာ ပစ်နိုင်သည်၊ သားဆိုးသမီးဆိုး မပစ်နိုင်။

၁၅၁။ တောင်းမှာအကွပ်၊ လူမှာအဝတ်။

၁၅၂။ တောင်းလျှင်မုန့်၊ ပေးလျှင်ဆုံး။

၁၅၃။ တောင်းအရာတောင်း၊ ဆောင်းအရာဆောင်း။

၁၅၄။ တိုက်ဖန်များလျှင် သစ်ငုတ်ပင်နဲ့။

၁၅၅။ တိုက်လှေနှင့် ယက်ကန်းလွန်း။

၁၅၆။ တိုင်းရက်တဲ့ ပက္ကလာ၊ မိုးရွာသည်နှင့်အခန့်သင့်။

၁၅၇။ တွေ့ကြုံဆုံကွဲ၊ မမြဲမမွှတာ။

၁၅၈။ တွင်းကထွက်၊ ပရွက်ပလူ။

၁၅၉။ တွင်းပျောက်သည်ပတတ်၊ ပြာလောင်ခပ်။

# (ထ)

၁။ ထမင်းကို အကုန်စား၊ စကားကို အကုန်မပြောနှင့်။
၂။ ထမင်းကြမ်းခဲသာမြင်၊ ဒုတ်ကို မမြင်။
၃။ ထမင်းကြမ်းက အငွေ့ထွက်။
၄။ ထမင်းကြမ်း ယပ်ခပ်စား။
၅။ ထမင်းစားတုံး၊ ရစ်ကြိုးစေး ဝါးခိုင်းသည်။
၆။ ထမင်းတလုပ်၊ ဒုတ်တချက်။
၇။ ထမင်းနည်း နှစ်ဇွန်း ကူသောက်။
၈။ ထမင်းရေပူလာ၊ လျှာလွှဲ။
၉။ ထလွှန်းလျှင် ထိုင်ရတတ်သည်။
၁၀။ ထားစရာတွင် မယားခက်၊ စားစရာတွင် အစားခက်။
၁၁။ ထားတိုင်းမနေ၊ စေတိုင်းမရောက်။
၁၂။ ထား နှင့် ဆားလဲ။
၁၃။ ထားဝယ်ရိုး ကြက်ခိုးတတ်။
၁၄။ ထီးတင်ပွဲလဲမမှီ၊ ဘတော်ပျံလဲမမှီ။
၁၅။ ထီးရ နန်းပိုင်သည်။
၁၆။ ထီးရိုးကို မိုးကြိုးပစ်၊ သိုက်လက်သစ်။
၁၇။ ထီးဝန်းနှင့်မှိုဖြူ၊ ခွေးဖြူနှင့်ခြသေ့်။
၁၈။ ထုလေမာလေ၊ ငါးဖယ်တော။
၁၉။ ထုဉသျှစ်လည်းကွဲ၊ ခံဉသျှစ်လည်းကွဲ။
၂၀။ ထူရာတွင် ထပ်လျှင်လေးသည်။
၂၁။ ထူးမှမြတ်သည်၊ ရှူးမှတတ်မည်။
၂၂။ ထူးလျှင်ထူးမှ၊ ရှူးလျှင်ရှူးမှ။
၂၃။ ထူးလျှင်တသက်၊ မထူးလျှင် ခုနစ်ရက်။
၂၄။ ထောပတ်ကောင်း စလောင်းနှင့်ထည့်။
၂၅။ ထောပတ်ယူခဲ့ဆိုလျှင် အိုးပါပြီး။
၂၆။ ထိုးမည့်ဆင် နောက်ဆုတ်။
၂၇။ ထက်သာထက်၊ တဝက်မပြတ်။
၂၈။ ထင်တိုင်းလည်း မဆိုနှင့်၊ ဝင်တိုင်းလည်း မမျိုနှင့်။
၂၉။ ထင်ပေါ်လျှင်၊ စင်တော်ကကောက်။
၃၀။ ထင်သာထင်၊ မဝင်ဘူး ကျောင်းအမ။

၃၁။ ထင်းပေါက်ခိုင်းပါ၊ လျှာနာနှင့်ကပ်ကိုး။
၃၂။ ထန်းပလပ် နတ်ရုပ်ထင်။
၃၃။ ထန်းပင်ကို ထန်းရွက်လုံအောင် မမိုးနိုင်။
၃၄။ ထန်းရေမူး ကျွဲခိုးပေါ်။
၃၅။ ထန်းရေမူးပြေ၊ ထန်းနို့မော့ကြည့်။
၃၆။ ထန်းလျက်ဝယ်ရာ တည်သီးကန့်လန့်။
၃၇။ ထန်းလျက်နှင့်တူသည်ဟု ကျောက်ဖျူကို မနမ်းနှင့်။
၃၈။ ထန်းသမားစားဘို့ ထန်းနို့ကရေထွက်။
၃၉။ ထန်းသမား မိုးမျှော်။
၄၀။ ထန်းသီးကြွေခိုက်၊ ကျီးနင်းခိုက်။
၄၁။ ထိတ်ကနဲဆို၊ ကြောက်တာကအလျင်။
၄၂။ ထိတ်ကိုပုတ်ပြီးမှ ကန်တော့။
၄၃။ ထိတ်ကိုမြွေကိုက်။
၄၄။ ထိတ်ပုတ်ခေါင်းပုတ်၊ အကြည်ညိုယုတ်။
၄၅။ ထုပ်ပေါ်ကြွက်လျှောက်၊ မျက်စိနောက်။
၄၆။ ထုံးကိုလည်းထောက်၊ ရှုံးကိုလည်းကြောက်။
၄၇။ ထုံးလိုခြေ၊ ရေလိုနှောက်။
၄၈။ ထုံးလည်းမှန်၊ စံလည်းမျှ၊ အရှိုးလည်းကျ။
၄၉။ ထောက်ထားလျှင် နှောင့်ရှက်၊ မြှောက်စားလျှင် ရှောင့်တက်။
၅၀။ ထောင်တန်သည့်စကား ရယ်ပေါ့။
၅၁။ ထောင်မြင်၍ ရာစွန့်။
၅၂။ ထောင်းလည်းထောင်းပိုင်၊ တရားနိုင်။
၅၃။ ထောင်းသော်မနာ၊ ကြိတ်သော်နာ။
၅၄။ ထိုက်မှတန်၊ တန်မှထိုက်။
၅၅။ ထိုင်နေအကောင်းသား၊ ထသွားမှကျိုးမှန်းသိ။
၅၆။ ထွေးပြီးသားတံထွေး၊ မျိုမြဲမရှိ။
၅၇။ ထွက်ပြီးဆင်စွယ်၊ ဝင်တယ်မရှိ။
၅၈။ ထွန်နောက် ရေပါ။

(ဒ)

၁။ ဒညင်းသီးက အီးတပြန်။
၂။ ဒါနနှင့်သီလမပါ၊ သေခါမှသိ။
၃။ ဒါသပါဆို၊ ကျွန်လားမေး။
၄။ ဒါသီကို သာကီလုပ်။
၅။ ဒူးနေရာဒူး၊ တော်နေရာတော်။
၆။ ဒူးလောက်တင်မှ ရင်လောက်ကျ။
၇။ ဒေါသကြီးသူ ခွေးနှင့်တူ။
၈။ ဒေါသကြီးသူ စကားတို။
၉။ ဒေါသရှေ့ထား မှားတတ်သည်။
၁၀။ ဒန့်ကျဲပင်နား၊ ဘောက်ဖတ်။
၁၁။ ဒေါင်းကိုအက၊ စောင်းကိုည။
၁၂။ ဒေါင်းမင်းပင် ညွှတ်ကွင်းကျ။
၁၃။ ဒေါင်းဥကိုစာအုပ်၊ စာဥကို ဒေါင်းအုပ်။
၁၄။ ဒွေးရော ဥပါဒ်ရော။

(ဓ)

၁။ ဓါးကို ဖျက် ဝါးမျက်။
၂။ ဓါးခုတ်ရာ လက်လျှိုခံ။
၃။ ဓါးတုံးနှင့် ခရမ်းသီးပိန်။
၄။ ဓါးတုံးနှင့် ဝါးလုံးခုတ်။
၅။ ဓါးနှင့်ဆား လဲသလို။
၆။ ဓါးနှောင့်မလွတ် ဓါးသွားမလွတ်။
၇။ ဓါတ်တူနံ့တူ ဆေးဘက်ယူ။
၈။ ဓါတ်တော်မှတ်လို့ ကလပ်တင်၊ ကလပ်ကကျမှ ကလိမ်စေ့မှန်းသိ။
၉။ ဓမ္မသတ်တစောင်၊ ဓါးမြှောင်တစင်း။
၁၀။ ဓမ္မာသောက၊ အင်းဝရာဇာ။

(န)

၁။ နကိုရှိမှ နကိုင်းထွက်။
၂။ နကိုတုန်၊ မီးလှုံ၍မပျောက်။

၃။ နဂါးတို့မျက်စောင်း အကြောင်းမရှေး။
၄။ နဖူးစာ ရွာလည်။
၅။ နယုန်မိုးသေး၊ မြက်သားမွေး။
၆။ နဝေတိမ်တောင်။
၇။ နာနာဘာဝ၊ ဝိနာဘာဝ။
၈။ နာဖျားလို့မသေ၊ ဝါကားလို့သေ။
၉။ နာလဲနာသေး၊ နံ့လဲနံ့သေး။
၁၀။ နားတောင်းရောင်ကြောင့် ပါးပြောင်။
၁၁။ နားပင်းတာနှင့် ပျင်းတာအတော်။
၁၂။ နားမထွင်းသည့်ဖူး ရေမနစ်။
၁၃။ နိမ့်သောင် နောင်မှသိ။
၁၄။ နီးတကျက်ကျက်၊ ဝေးတသက်သက်။
၁၅။ နွားရာဝဲစွဲ၊ လဲရာသူခိုးထောင်း။
၁၆။ နေချင်သော်လည်း မနေရ၊ သေချင်သော်လည်း မသေရ။
၁၇။ နေတတိုင်၊ သွားတတိုင်။
၁၈။ နေတော့ပျဉ်ထောင်၊ စားတော့ချဉ်ပေါင်။
၁၉။ နေနှင့်လ၊ ရွှေနှင့်မြ။
၂၀။ နေမြင့်လေ၊ ပုန်းရည် ချဉ်လေ။
၂၁။ နေမြင့်လေ၊ အရှုံးရင့်လေ။
၂၂။ နေရာနီးဝေးမဆိုသာ၊ မေတ္တာသာ ပဓါန။
၂၃။ နေရိပ်လို နေပူကစောင့်။
၂၄။ နေလျှင်ကွေး၊ သွားလျှင်ပြေး။
၂၅။ နေလျှင်ခွေခွေ၊ သွားတော့စင်းစင်း။
၂၆။ နေဝင် စပါးလှန်း။
၂၇။ နေသေးသပ ခြုံထဲက၊ ချိုသွေးလို့ တမြမြ။
၂၈။ နေအရှက်ကြောင့် ကြာပွင့်။
၂၉။ နေအေးကို လူလိမ်။
၃၀။ နေ့ပူလို့ ညချမ်း၊ တပေါင်းလ လသာရမ်း။
၃၁။ နေ့ပြောနောက်ကြည့်၊ ညပြော အောက်ကြည့်။
၃၂။ နေ့မြင် ညပျောက်။
၃၃။ နေ့သဝေ၊ ညကိုး။

၃၄။ နံက်လင်းမှ အိပ်မက်မက်။
၃၅။ နက်ဖြန်သဘက် မုရင်းတက်၊ ငါ့ထက်သူမသာ။
၃၆။ နင်မဟုတ်၊ နင့်အဖေ။
၃၇။ နစ်ရာထနောင်း၊ ပေါ်ရာဗူးတောင်း။
၃၈။ နစ်လျှင်မပေါ်၊ ပေါ်လျှင်မနစ်။
၃၉။ နည်းနည်းနှင့် ကျဲကျဲဝိုင်း။
၄၀။ နည်းယောင်း၊ များယောင်း၊ တောင်းပြည့်။
၄၁။ နည်းအမျှ၊ များအဝ။
၄၂။ နတ်ကရာ ကျိုးမော။
၄၃။ နတ်ခိုက်ကလဲရှိ၊ ခါတ်ကြိုက်ကလဲမိ။
၄၄။ နတ်တို့ဖန်၊ ရေကန်အသင့်၊ ကြာအသင့်။
၄၅။ နတ်တော် ပြာသို၊ နှင်းစွတ်စို။
၄၆။ နတ်နေကိုင်းတဖက်၊ အသက်နေ။
၄၇။ နတ်နှင့်နဂါး၊ မလှည့်စားနှင့်။
၄၈။ နတ်ရှူး ဘုံနှင့်မြှောက်။
၄၉။ နတ်ရေးတဲ့ဖူးစာ၊ လူပြင်ရာမခံ။
၅၀။ နတ်လိုမှ ဂြိုဟ်မ။
၅၁။ နတ်ဝင်ချင်း၊ နဝင်းမလှည့်နှင့်။
၅၂။ နတ်သမီးကလက်လို့ ဘုံပျက်။
၅၃။ နတ်သုဓာမှ၊ ခေါ်စာကျွေး၊ အရေးမလှ။
၅၄။ နောက်မှကင်၊ အလျှင်ကျက်။
၅၅။ နောက်လာတဲ့မောင်ပုလဲ၊ ဒိုင်းဝန်ထက်ကဲ။
၅၆။ နောက်အိပ်၊ အလျှင်ပျော်။
၅၇။ နောင်ခါလာ ခေါင်ခါဆေးနှင့်ကု။
၅၈။ နောင်ခါလာ၊ နောင်ခါချေး။
၅၉။ နိုင်သော်ကောက်ထုံး၊ ရှုံးသော် လက်ဆောင်။
၆၀။ နွားကလေးနို့၊ နွားကြီးစို့။
၆၁။ နွားကြော့ဆိုမှ ခြံတိုး။
၆၂။ နွားကွဲ ကျားကိုက်။
၆၃။ နွားခလောက်သာမြည်၊ နှမ်းမရ။
၆၄။ နွားချေးပုံ ကြာပေါက်။

၆၅။ နွားငတ် ရေချ။
၆၆။ နွားဆိုး၊ ထိုးကွက်ချ။
၆၇။ နွားတဖက် ကောင်းသော်လည်း ချောင်းမတက်နိုင်။
၆၈။ နွားနက်ဖင်၊ နွားနီလျက်။
၆၉။ နွားနှစ်ကောင်ဝှေ့ရာ၊ မြေစာပင် ညက်ညက်ကျေ။
၇၀။ နွားပိန်ထူ လူခွေ။
၇၁။ နွားပျိုသန်လှ၊ နွားအိုပေါင်ကျိုးသလောက်ရှိ။
၇၂။ နွားမတန်း၊ သားမခင်။
၇၃။ နွားမြူး ဆူးတိုး။
၇၄။ နွားရိုင်း ခြံသွင်း။
၇၅။ နွားရှေ့ ထွန်ကျူး။
၇၆။ နွားဝင် ကျွဲဝပ် ထလွယ်၏၊ လူဝပ် ထခဲသည်။
၇၇။ နွားသိုး ကြိုးပြတ်။
၇၈။ နွားသိုးနှင့်မိုး အစိုးမရ။
၇၉။ နွားအို ခြံသိ။
၈၀။ နှမကို မောင်ကြောင့်ကြ။
၈၁။ နှမကောင်း မောင်အိမ်ဦးခန်း။
၈၂။ နှမကြင်သာရှိ၊ မောင်ကြင်မရှိ။
၈၃။ နှမများလျှင် မောင်ချည်ခင်စွပ်။
၈၄။ နှမလိုချင် မောင်ကိုပေါင်း။
၈၅။ နှမလင်နေ မောင်ဖင်ကျိန်း။
၈၆။ နှလုံးကောင်း ဝမ်းကြီး။
၈၇။ နှလုံးကောင်း ဝမ်းဖောင်း။
၈၈။ နှီးကောင်း ဖျာမတန်။
၈၉။ နှီးထိုးကောင်း၊ ပုဝါမသာ။
၉၀။ နှံပြီစုတ် ရန်မီးကြောင့် ဆင်ပြောင်ကြီးသေ။
၉၁။ နှံပြီစုတ် အမြောက်နှင့်ချိန်။
၉၂။ နှင်းစွတ်စိုရွှဲ၊ တပို့တွဲ။
၉၃။ နှစ်ကိုယ့်တစိတ်။
၉၄။ နှစ်ယောက်တည်း၊ အလယ်အိပ်ချင်။
၉၅။ နှစ်သက်ရာသြဇာ၊ ပျော်ရာနိဗ္ဗာန်။

၉၆။ နှုတ်ကောင်းလျှင် ပြည်စိုး။
၉၇။ နှုတ်ကြောင့်သေ၊ လက်ကြောင့်သေ။
၉၈။ နှုတ်ခမ်းပဲ့ချင်း မီးမှုတ်။
၉၉။ နှုတ်ခမ်းမွှေး မနိုင်ဘဲ၊ ပဲကြီးဟင်းသောက်။
၁၀၀။ နှုတ်ချို သျှိုတပါး။
၁၀၁။ နှုတ်ချိုလျှင် ပွင့်လန်း၊ လျှာကြမ်းလျှင် လူမုန်း။
၁၀၂။ နှုတ်တရာ စာတလုံး။
၁၀၃။ နှမ်းတစေ့နှင့် ဆီမတိုး။
၁၀၄။ နှမ်းတတင်းကြဲရာ၊ နှမ်းတရာကျ။
၁၀၅။ နှမ်းတလုံးနှင့် ဆီမဖြစ်။
၁၀၆။ နှိုင်းနှိုင်းချိန်ချိန်၊ သုခမိန်။

(ပ)

၁။ ပခုံးထမ်းအနေနှင့်၊ လက်ဖက်ရည်ကြိုက်။
၂။ ပတတ်ကို ဒိုင်ခေါ်။
၃။ ပဒိုင်းသီး၊ ဆုပ်လျှင်စူး၊ စားလျှင်ရူး။
၄။ ပယိုရ်ကြားတိုင်း၊ လေးချက်တီးမမှတ်နှင့်။
၅။ ပါနောက်ကြောင့် ဘုရင်ငါးပါးမှောက်။
၆။ ပါပမင်းလက်ထက်၊ ငွေတွင်းကြေးတွင်းနက်။
၇။ ပါးကိုက်၊ နားကိုက်။
၈။ ပါးစပ်က ဘုရား၊ လက်က ကားယား။
၉။ ပါးစပ်က အရသာ၊ လျှာအရိုးမရှိ။
၁၀။ ပါးစပ်အလို၊ စအိုမခံနိုင်။
၁၁။ ပါးစပ်ဟ အူမ မြင်။
၁၂။ ပါးတို့၊ နားတို့။
၁၃။ ပိဋကတ်မနိုင်၊ ကျောင်းမထိုင်နှင့်။
၁၄။ ပိတုန်းရောင်နှင့်တူ၊ အဖြူ မဖြစ်ချင်နှင့်။
၁၅။ ပိပြားမှ သေဝပ်။
၁၆။ ပိယေဟိ ဝိပ္ပယောဂေါ ဒုက္ခော။
၁၇။ ပီယဝါစာ၊ နှုတ်ချိုသာ။

၁၈။ ပီလောပင်၊ ပက်ကျိတက်။
၁၉။ ပုကို နုမှတ်လို့မှား။
၂၀။ ပုခန်းသားလို့ဆို၊ ဆန်ကိုဆေးအိုးနှင့်ခြင်။
၂၁။ ပုခန်းသားသေ ကျီးမစားဝံ့။
၂၂။ ပုဂံရာဇဝင် တုတ်ထမ်းရှင်း။
၂၃။ ပုဆိုးခြုံထဲက လက်သီးပြ။
၂၄။ ပုဆိုးမရှိသူက လုလုံထိုင်ခိုင်း။
၂၅။ ပုဆိုးအပ်တင်၊ ဖျင်အပ်ချ။
၂၆။ ပုဇွန်ကြော်တတ် ဗျိုင်းလည်ပြတ်။
၂၇။ ပုဇွန်ဆိတ် ငယ်သော်လည်း၊ ပင်လယ်ကူးတတ်သည်။
၂၈။ ပုထိုးကောင်းလျက် ညောင်ပင်ဖျက်။
၂၉။ ပုထိုးမနိုင် ညောင်ပင်မနိုင်။
၃၀။ ပုလဲစစ် မှုးပြည့်။
၃၁။ ပုလဲနံပ သင့်။
၃၂။ ပူစောင့်ပန်းပင်၊ တငင်ငင်။
၃၃။ ပူလို့ကူ၊ ရေနွေးပူတွေ့။
၃၄။ ပေတပင်လုံး၊ ဘုန်းကြီးယပ်တောင်။
၃၅။ ပေတသီး၊ ကျီးတသား။
၃၆။ ပေလေးပင်၊ ရှင်လေးပါး။
၃၇။ ပေးကားပေး၏ မရ။
၃၈။ ပေးကမ်းခြင်းသည် အောင်မြင်ရာ။
၃၉။ ပေးကမ်းတတ်စေ၊ နှံ့စပ်စေ။
၄၀။ ပေးကမ်းနိုင်က ရန်ရှားသည်။
၄၁။ ပေးကမ်းရာ အောင်မြင်။
၄၂။ ပေးစရာမရှိ၊ လျှော်စရာရှိ။
၄၃။ ပေးစရာလဲ ငွေမရှိ၊ ပြေးစရာလဲ မြေမရှိ။
၄၄။ ပေးသူမေတ္တာ၊ ယူသူသစ္စာ။
၄၅။ ပဲကြီးဟင်းလည်း သောက်ချင်၊ နှုတ်ခမ်းမွေးလည်း မရိတ်ချင်။
၄၆။ ပဲကြီးရေစိမ်၊ အချိန်တန်မှ ပွ။
၄၇။ ပဲခူးဆား၊ ခတ်တိုင်းငန်။
၄၈။ ပဲစုမှ မူးရ၊ မူးရမှ ကျပ်ဖြစ်။

၄၉။ ပဲလေးရာ ဖရုံဆင့်။
၅၀။ ပဲလှော်စေ့၊ တွေ့ရပုံမဆန်း။
၅၁။ ပေါတိုင်းမဝယ်နှင့်၊ ပြောတိုင်းမလွယ်နှင့်။
၅၂။ ပေါ့စေလိုလို့ ကြောင်ရုပ်ထိုး၊ ဆေးအတွက်လေး။
၅၃။ ပေါ်ကြော့နွားမှာ၊ စိုင်ရောပါသည်။
၅၄။ ပေါ်ထင်မှ တော်ဝင်။
၅၅။ ပိုသာပိုတော့၊ မယိုဘူး။
၅၆။ ပို့မဲ့ပို့၊ ကုတို့ရောက်အောင်ပို့။
၅၇။ ပိုးစုန်းကြူးထွန်း၍ တကျွန်းလုံးမလင်း။
၅၈။ ပိုးပေါင်းဖြစ်၊ ကျစ်စုံကြိ။
၅၉။ ပိုးဖလံမျိုး၊ မီးကိုတိုး၊ ကိုယ်ကျိုးနဲလှပြီ။
၆၀။ ပိုးသာကုန် မောင်ပုံစောင်းမတတ်။
၆၁။ ပက်ကျိသွားရာ၊ လမ်းမထင်။
၆၂။ ပင် မ လဲ၊ အကိုင်း ထင်းဖြစ်။
၆၃။ ပင်လယ် မမြင်ဘူး၊ မူး ပင်လယ်ထင်။
၆၄။ ပင့်လို့သာလာ၊ ပျော်ရာမှုတ်ဘူး။
၆၅။ ပင်းမှုကြပ်၊ ထပ်မှထူသည်။
၆၆။ ပစ်မနိုင်၊ ခွါမကျ။
၆၇။ ပစ်ရမှာလဲ အဆီနှင့်ရဲရဲ၊ စားရမှာလဲ သဲနှင့်ရှပ်ရှပ်။
၆၈။ ပဋ္ဌင်တုရိယာ၊ နှံခရာ၊ သာယာချင်လျက်၊ လင်းကွင်းဖျက်။
၆၉။ ပညာကားရှေ့၊ ဥစ္စာကားနောက်။
၇၀။ ပညာကိုရှာ၊ မာန်သာနှိမ့်ချထား။
၇၁။ ပညာကို အခြင့်၊ ရှင်ကိုအတင့်။
၇၂။ ပညာကောင်းက ပဒေသာ၊ မေတ္တာကောင်းက ရန်ကွာ။
၇၃။ ပညာကြီးက၊ နှုတ်နည်း။
၇၄။ ပညာရဲရင့် ပွဲလယ်တင့်။
၇၅။ ပညာရှိတွေးက၊ ပြေးကြည့်သည်ထက်မှန်။
၇၆။ ပညာရှိနှင့်ပေါင်း၊ သူတော်ကောင်း။
၇၇။ ပညာရှိမှ ခွင့်သိ။
၇၈။ ပညာရှိလျက် ဒေါသဖျက်။
၇၉။ ပညာရှိ သတိဖြစ်ခဲ။

၈၀။ ပညာရှိသည်ဟူ၍ ကိုယ်ထီးမကြံရာ။
၈၁။ ပညာရှိအမျက်၊ ပြင်မထွက်။
၈၂။ ပညာရွှေအိုး လူမခိုး။
၈၃။ ပညာလွန်သော် စာဂ။
၈၄။ ပညာသယ်၊ ကြီးငယ်မဆိုသာ။
၈၅။ ပညတ်သွားရာ ဓာတ်သက်ပါ။
၈၆။ ပတ္တမြားကျေးဇူး၊ လူရူးမသိ။
၈၇။ ပတ္တမြားဆန်ကျိုး၊ အဘိုးပြည်တန်။
၈၈။ ပတ္တမြားတခြည်၊ ဆန်တပြည်။
၈၉။ ပတ္တမြားမှန် နွံမှာနစ်လည်း မညစ်။
၉၀။ ပတ္တမြားမှန် နွံမနစ်။
၉၁။ ပတ္တမြားမျိုး အဖိုးပြည်တန်။
၉၂။ ပတ္တမြားရောင်ထက်၊ ပညာရောင်လက်။
၉၃။ ပတ်သမားရှုံး၊ ပုန်းရည်။
၉၄။ ပန်းကောင်း အညွန့်ချိုး။
၉၅။ ပန်းချီ ဆေးမဲ့။
၉၆။ ပန်းညှိုမျိုး၊ ချိုးလေစည်လေ။
၉၇။ ပန်းထိမ်တတ်မတတ်၊ ဂဟေစပ်သက်သေ။
၉၈။ ပန်းထိမ်တောက်တောက် မစားလောက်။
၉၉။ ပန်းထိမ်မတတ်ခင် ရွှေခိုးသင်။
၁၀၀။ ပန်းထိမ်သည့် သဘက်ခါ။
၁၀၁။ ပန်းဘဲတထိုင်၊ မစားနိုင်။
၁၀၂။ ပန်းဘဲလူလိမ်၊ ပန်းထိမ်ရွှေခိုး။
၁၀၃။ ပန်းဘဲသမား၊ ဓါးကောင်းမကိုင်ရ။
၁၀၄။ ပန်းဘဲသူကြီး၊ မီးပူမကင်း။
၁၀၅။ ပန်းသတင်း လေညှင်းဆောင်၊ လူသတင်း လူချင်းဆောင်။
၁၀၆။ ပန်းအပွင့်၊ လူအကျင့်။
၁၀၇။ ပပ်ကြားကမစင်၊ ခွေးနှိုက်မရသလို။
၁၀၈။ ပိန်မသာ၊ လိမ်မသာ။
၁၀၉။ ပိန်ရတဲ့အထဲ၊ နာတာရှည်စွဲ။
၁၁၀။ ပုဂ္ဂိုလ်ခင်မှ၊ တရားမင်။

၁၁၁။ ပုပ်မှပေါ်၊ ဟုတ်မှကျော်။
၁၁၂။ ပုံထက်လင်းကွင်း မသာချင်နှင့်။
၁၁၃။ ပုံမဟုတ် ပါဠိမဟုတ်။
၁၁၄။ ပုဏ္ဏားမြင် ဗေဒင်ကြည့်။
၁၁၅။ ပုဏ္ဏား သားလိုချင်။
၁၁၆။ ပုဏ္ဏား သားလို၊ စအိုလှန်ကြည့်။
၁၁၇။ ပေါက်ထဲ ကျေးနေ။
၁၁၈။ ပေါက်ပင်ကိုင်း ဗျိုင်းကြောင့်။
၁၁၉။ ပေါက်ပွင့် အမဲသားထင်။
၁၂၀။ ပေါက်သည့်နဖူး မထူး။
၁၂၁။ ပေါင်တတ်မှကြီး၊ မြှောင်တတ်မှနီး။
၁၂၂။ ပေါင်းတော်ညိတ်၊ စိတ်တော်သိ။
၁၂၃။ ပျားတစက်ကြောင့် ပြည်ပျက်။
၁၂၄။ ပျားပန်းခတ် တဖြတ်ဖြတ်။
၁၂၅။ ပျားပျံလျှင် ပျားတံမရွေ့။
၁၂၆။ ပျားရည်နှင့် ဝမ်းချ။
၁၂၇။ ပျားရည်ယင်သောက်၊ ပျားရည်တွင်နစ်။
၁၂၈။ ပျားရှိ၍ ဖက်မရှိ။
၁၂၉။ ပျော့ပျော့နှင့် နံသည့် ကြောင်ချေး။
၁၃၀။ ပျော့လွန်းလျှင်ချွဲ၊ မာလွန်းလျှင်ကွဲ။
၁၃၁။ ပျော့လျှင်ဖယောင်း၊ မာလျှင် သံချောင်း။
၁၃၂။ ပျော်စေ၊ ပျက်စေ၊ ကလက်စေ။
၁၃၃။ ပျော်ပျော်နေ သေခဲ။
၁၃၄။ ပျော်ရာနိဗ္ဗာန်။
၁၃၅။ ပျော်ရာမှာမနေရ၊ တော်ရာမှာနေရ။
၁၃၆။ ပျော်လွန်းလျှင်နတ်မဲ၊ မော်လွန်းလျှင်ရပ်စဲ။
၁၃၇။ ပျံလေရော့ငှက်ခါး၊ နားကာမှသိ။
၁၃၈။ ပျိုးခင်းကောင်းလျက်၊ မြေတောင်ဖျက်။
၁၃၉။ ပျိုးခင်းနွားစား၊ ရည်းစားလူလု။
၁၄၀။ ပျက်အစဉ် ပြင်ခဏ။
၁၄၁။ ပျင်းလျှင် ဖျင်းသည်။

၁၄၂။ ပျော့ကပ်သောသူ ရှာလျှင်တွေ့၊ သေသောသူ ကြာလျှင်မေ့။
၁၄၃။ ပြဒါးတလမ်း၊ သံတလမ်း။
၁၄၄။ ပြဒါးမီးနေ၊ သံပန်းသေ။
၁၄၅။ ပြဒါးသေ တဆွေ့ဝ၊ သံသေ တပြေဝ။
၁၄၆။ ပြဒါးသေ တပြေဝ။
၁၄၇။ ပြာသို တပို့တွဲ၊ ခင်ကြီးလူထွက်ပွဲ။
၁၄၈။ ပြုလျှင်အသစ်၊ ဖြစ်လျှင် အဟောင်း။
၁၄၉။ ပြုသူအသစ်၊ ခံရသူ အဟောင်း။
၁၅၀။ ပြေးလျှင်ပြေးရမှ၊ မပြေးကွေးရမှ။
၁၅၁။ ပြောစရာတွင် စကားခက်။
၁၅၂။ ပြောတော့မိုး၊ နှိုးတော့ကျွဲ။
၁၅၃။ ပြောတိုင်းယုံ၊ ယုံတိုင်းပြော။
၁၅၄။ ပြောဖန်များ၊ စကားရ။
၁၅၅။ ပြောဖန်များ၊ မယားစကားအောင်။
၁၅၆။ ပြောမယုံ၊ ကြုံမှသိ။
၁၅၇။ ပြောသူမဖြစ်၊ ဖြစ်သူမပြော။
၁၅၈။ ပြင်လွန်းလျှင် ဖင်ချွန်း။
၁၅၉။ ပြည်စိုးစာနှင့်မင်းစာ ထက်ဝက်။
၁၆၀။ ပြည်တော်ဝင်ကာနီးမှ၊ ကျီးကန်းချေးပါ။
၁၆၁။ ပြည်တင်း မင်းမခံနိုင်။
၁၆၂။ ပြည်တန်သည့်ပတ္တမြား၊ အလားမရ။
၁၆၃။ ပြည်ထဲရေးထက်၊ ဝမ်းရေးခက်။
၁၆၄။ ပြည်ထဲအရေး၊ ပေါက်နှင့်ကျေး။
၁၆၅။ ပြည်ပန်းညို၊ ချိုချင်ပါလျက်၊ ဆားကမျက်။
၁၆၆။ ပြည်မသိ ဗာရာဏသီ၊ မင်းမသိ ဗြဟ္မဒတ်။
၁၆၇။ ပြည်ရွာကွပ်မကောင်း၊ ရွာစောင်း။
၁၆၈။ ပြည်ရွာပျက်မှ ကြောင်းဆယ်ခု။
၁၆၉။ ပွေးပေါင်က၊ မိုးတောင်က။
၁၇၀။ ပွဲပြီး မီးသေ။
၁၇၁။ ပွဲမဝင်ခင် ပြင်ကကျင်းပ။
၁၇၂။ ပွဲသွားကြော့ကြော့၊ ပွဲပြန်မော့မော့။

(ဖ)

၁။ ဖနှောင့်ချောသမျှ တင်ပါးမှာချည်းစု။
၂။ ဖနှောင့်နှင့်တင်ပါး၊ တသားတည်းကျ။
၃။ ဖရုံတညှာ၊ ဗူးတညှာ၊ တွဲရိုးမရှိ။
၄။ ဖားတုလို့ ခရုပွက်၊ အိုင်ပျက်။
၅။ ဖိုးသူတော် ဖျင်တတောင်၊ ခုနစ်ခါတောင်။
၆။ ဖင်မနိုင်ဘဲ၊ ပဲကြီးဟင်းသောက်။
၇။ ဖင်မရှိဘဲ ချေးတုံးကြီး။
၈။ ဖုတ်လေတဲ့ငါးပိ၊ ရှိလေမှန်းမသိ။
၉။ ဖုံးတုန်း လုံးတုန်း၊ တန်ဆောင်မုန်း။
၁၀။ ဖောင်စီးယင်း ရေငတ်။
၁၁။ ဖျာလိပ်ထဲ ခွေးဝင်။
၁၂။ ဖြူရောင်နှင့်မဲ၊ တူရောင်နှင့်လွဲ။
၁၃။ ဖြစ်ခဏ၊ ပျက်ခဏ။
၁၄။ ဖြစ်ပြန်ပျက်ပြန် လောကဓံ။
၁၅။ ဖြစ်မှဲ့ခွေး အမွေးတခြား။
၁၆။ ဖြစ်သမျှအကြောင်း၊ အကောင်းချည်း။
၁၇။ ဖွဲကိုထောင်း၍ ဆံကောင်းမရ။
၁၈။ ဖွဲလှည်းနောက် ဆန်လှည်းပါ။
၁၉။ ဖွတ်ကျော်ပြာစု၊ ခရုဆန်ကျွတ်။
၂၀။ ဖွတ်မရ၊ ဓားမဆုံး။
၂၁။ ဖွတ်မိကျောင်းဖြစ်၊ မြစ်မချမ်းသာ။
၂၂။ ဖွတ်လောင်းရှိလျှင်၊ သစ်ခေါင်းပျက်။
၂၃။ ဖွပ်သည်ထက် ညစ်။

(ဗ)

၁။ ဗူးကောင်းမှစင်ခံ၊ လင်ကောင်းမှစံ။
၂။ ဗူးကွဲမှ ခါးတောင်းကျိုက်။
၃။ ဗူးစိုက်မှ ဘိတ်မုန့်စားရ။
၄။ ဗူးတရာအပေါက်ပိတ်၍မရ၊ လူတယောက်ပါးစပ် ပိတ်မရ။
၅။ ဗူးတောင်းနစ်လို့ ဇောင်ချမ်းပေါ်။

၆။ ဗူးထဲက ရေပါ။
၇။ ဗူးလုံး နားမထွင်း။
၈။ ဗူးလေးရာ ဖရုံဆင့်။
၉။ ဗူးသီးမှ အရိုးတော်။
၁၀။ ဗေဒင်မေး ဆန်ကုန်သည်။
၁၁။ ဗောဓိကုက္ကို၊ ညောင်ထိုထို၊ လူပျိုဘုရား၊ မရှိခြား။
၁၂။ ဗောဓိပင်ပျိုး၍ ပေါင်ကျိုး။
၁၃။ ဗုဒ္ဓဟူး၊ နတ်ရှူးပင် မစား။
၁၄။ ဗုံလုံတလှည့် ငပျံတလှည့်။
၁၅။ ဗောင်းတော်ညိတ်၊ စိတ်တော်သိ။
၁၆။ ဗိုင်းကောင်း ကျောက်ဖိ။
၁၇။ ဗိုလ်နေမြဲ ကျားနေမြဲ။
၁၈။ ဗျိုင်းကောက်မှ ခြေကောင်း။
၁၉။ ဗျိုင်းမှန်လျှင် ခြေစိမ်း။
၂၀။ ဗျိုင်းစဉ်းလဲနှင့် ပုဇွန်ရဲတွေ့။
၂၁။ ဗြောသံကြား တရားနာ။
၂၂။ ဗွေတရာ ကြာတလုံး။

## (ဘ)

၁။ ဘကြီးနှင့်လည်းလွဲ၊ ထီးတင်ပွဲလည်းမမှီ။
၂။ ဘထွေး၊ အဖေခေါ် ချင်။
၃။ ဘိနပ်နှင့်ရေဗူးမပါ နွေခါမှသိ။
၄။ ဘုမသိ၊ ဘမသိ။
၅။ ဘုရားကိုဖက် အသက်ရှည်။
၆။ ဘုရားတဆူ ဂူတလုံး။
၇။ ဘုရားပြီး ငြမ်းဖျက်။
၈။ ဘုရားမှတ်၍ ကိုးကွယ်ပါ၊ ဖွတ်ထွက်မှ တောင်ပို့မှန်းသိ။
၉။ ဘုရားဖြစ်မည့်ကြို၊ မာရ်နတ်ဖျက်။
၁၀။ ဘုရင်တို့ဘုန်း၊ မိုးလိုချုန်း၊ လူပုန်း တောမှာ မနေသာ။
၁၁။ ဘူးတလုံးဆောင် အိုအောင် မဆင်းရဲ။

၁၂။ ဘဲဥတလုံးနှင့် သုံးရွာဝေ။
၁၃။ ဘဲဥအစ ရှာမရ။
၁၄။ ဘယ်သူမပြု မိမိမှု။
၁၅။ ဘယ်သူသေသေ၊ ငတေမာ ပြီးရော။
၁၆။ ဘုတ် ကျီးရှိသေမှ ကျီးဘုတ်ရှိသေ။
၁၇။ ဘုန်းကြီးကျပ်ခိုးစင်တက်၊ မောင်ရှင်ခေါင်တက်။
၁၈။ ဘုန်းကြီး စာချ။
၁၉။ ဘုန်းကြီးတစ္ဆေ၊ သမ္မုဒ္ဒေရွတ်၍မရ။
၂၀။ ဘုန်းကြီး နှစ်ခါရှက်။
၂၁။ ဘုန်းကြီးနှင့်ဖိုး၊ အကျွာကြီး။
၂၂။ ဘုန်းကြီးမဏိ၊ ဂုဏ်ရှိလို့တက်၊ ထိပ်ကွက်လောက် မပြောင်။
၂၃။ ဘုန်းကြီးရှူးနှင့်လှေလူးတွေ့။
၂၄။ ဘုန်းကြီး၍သက်မရှည်၊ သက်ရှည်၍ ဘုန်းမကြီး။
၂၅။ ဘုန်းကြီးလူထွက်၊ ငါးပိမျှ မချက်တတ်။
၂၆။ ဘုန်းကြီးလောဘ၊ အနန္တ။
၂၇။ ဘုန်းကြီးသေ ရွာကြွေ။
၂၈။ ဘုန်းကြီးဟာကျ ပေးလား ကမ်းလား၊ ဒကာမဟာကျ မူးတင်းပဲတင်း။
၂၉။ ဘုန်းကြီးအမှု ရွာပတ်။
၃၀။ ဘုန်းနှင့်သမ္ဘာ၊ ထက်ချပ်ပါ။
၃၁။ ဘုန်းရှိရောက်က၊ ဘုန်းမဲ့ပျောက်ရ။
၃၂။ ဘုံမဟုတ်၊ ဆုံမဟုတ်။
၃၃။ ဘိန်းစားချင်း တလုံးပို့ရှူချင်။

## (မ)

၁။ မ ကိုခင်မှ ဥကို ခင်သည်။
၂။ မကောင်း ကျောင်းပို့။
၃။ မကောင်းသူပယ်၊ ကောင်းသူကယ်။
၄။ မကြားလိုမဆိုနှင့်၊ မစားလိုမမျိုနှင့်။
၅။ မကြားဝံ့ တရားသူကြီး၊ မမြင်ဝံ့ ဆေးဆရာ။
၆။ မကြော့ကြမ်းစေနှင့်၊ မသော့သွမ်းစေနှင့်။
၇။ မကြိဘဲနှင့်လည်းရ၊ ကြိလျက်လည်း မရ။

၈။ မကြည်တဲ့နှလုံး၊ ပြုံး၍မရှင်။
၉။ မကြည့်ချင်၊ မြင်ချင်လျက်သား။
၁၀။ မကြည့်တတ်တဏှာ၊ ကြည့်တတ်ဘာဝနာ။
၁၁။ မခေါ်ချင်နေရ၊ မတော်ချင်မနေရ။
၁၂။ မခေါ်ဘဲမထူး၊ မညော်ဘဲမမူး။
၁၃။ မခေါ်ဘဲမသွားနှင့်၊ မတော်ဘဲမစားနှင့်။
၁၄။ မချီလို့ သွားဖြဲ၊ ရယ်သလားမေး။
၁၅။ မချီလျှင် ခေါင်က၊ ချီလျှင် နောင်က။
၁၆။ မချစ်သော်လည်း အောင့်ကာနမ်း၊ မနမ်းသော်လည်း ပင့်သက်ရှူ။
၁၇။ မချမ်းသာလျှင်မကြွားနှင့်၊ မကျန်းမာလျှင် မစားနှင့်။
၁၈။ မငေါက်ခင်က ငို။
၁၉။ မစူးစမ်းဘဲ အပြစ်မတင်ရာ။
၂၀။ မစားရတပူပူ၊ စားရတဆူဆူ။
၂၁။ မစားရတဲ့အမဲ သက်နှင့်ပက်။
၂၂။ မစားရလူမမြင်၊ မဝတ်ရလူမြင်။
၂၃။ မစားရလုံးလုံး၊ စားရတပြုံးပြုံး။
၂၄။ မစားရ၊ ဝခမန်း။
၂၅။ မစားရ၊ အညော်ခံ။
၂၆။ မစားရအရှင်း၊ စားရ ဆီထမင်း။
၂၇။ မစားရက်၊ လောက်တက်။
၂၈။ မစားလို မမျိုနှင့်။
၂၉။ မစင် ခွေးနိုင်။
၃၀။ မစင်ခြောက် ရေနှူး။
၃၁။ မစင်ဆေး၊ မသိမေး။
၃၂။ မစင်ထဲကလောက်၊ မစင်ထဲပျော်။
၃၃။ မစိုက်ဘဲနှင့်ပေါက်၊ အညှောက်သန်သည်။
၃၄။ မစွမ်းရင်းကလဲရှိ၊ ကစွန်းခင်းကလဲငြိ။
၃၅။ မဆီမဆိုင်၊ လက်ပံသား ဓါးနှင့်ချိုင်။
၃၆။ မဆိုခင်က ကြောက်သည်။
၃၇။ မဆင်ဘဲနှင့်ရှာ၊ မကြွင်ဘဲနှင့်လာ။
၃၈။ မတထောင် တကောင်ဖွား။

၃၉။ မတူလျှင် တူအောင်တု။
၄၀။ မတူလျှင် မတုနှင့်။
၄၁။ မတော်ဘဲမဝယ်နှင့်၊ မခေါ်ဘဲ မလယ်နှင့်။
၄၂။ မတော်လျှင်၊ အကော်ခက်မည်။
၄၃။ မထိဘဲမဖမ်းနှင့်၊ မမိဘဲမလှမ်းနှင့်။
၄၄။ မထိုင်မီက ခြေဆင်း၊ မလင်းမီက နေထွက်။
၄၅။ မနာလို၊ မဆိုနှင့်။
၄၆။ မနာလို၍ ကုတို့ခတောင်း။
၄၇။ မနေနိုင်၍ဖေဒင်တွက်၊ ပိုက်ဆံနှစ်ပြားထွက်။
၄၈။ မနှင့်ညား၊ စပ်တောင်ကွေး။
၄၉။ မပူလို၍ ယောက်မရှာ။
၅၀။ မပေးလို့မရှိ၊ မဖြေလို့မသိ။
၅၁။ မပို့ဘဲနှင့်မဲဇာရောက်။
၅၂။ မပုပ်ဘဲမပေါ်၊ မဟုတ်ဘဲမကျော်။
၅၃။ မပိုင် ဝက်မွေး။
၅၄။ မပျိုဘဲနှင့်လှ၊ မအိုဘဲနှင့်ကျ။
၅၅။ မပြီးခင် ဗမာမမြင်စေနှင့်။
၅၆။ မပြေးသော် ကန်ရာရှိ။
၅၇။ မပြေးသော်၊ ရဲစေ။
၅၈။ မပြောမပြီး၊ မတီးမမြည်၊ မချည်မမြဲ။
၅၉။ မပြည့်သည့်အိုး၊ ဘောင်ဘင်ခပ်။
၆၀။ မဖုတ်သေးသည့်အိုး၊ ကျိုးလွယ်ပဲ့လွယ်။
၆၁။ မဖုတ်အိုးကိုမဝယ်နှင့်၊ အရှပ်ဆိုးကိုမပြယ်နှင့်။
၆၂။ မဖြစ် ညစ်ကျယ်။
၆၃။ မဖြစ်ဘဲနှင့် ငကဲခေါင်းတဝင့်ဝင့်။
၆၄။ မဘက်လိုက်၊ မိုက်ဘက်ပါ။
၆၅။ မမိဘဲမလှမ်းနှင့်၊ မထိဘဲမဘမ်းနှင့်။
၆၆။ မမေးခင်က အောက်နှင့်သည်။
၆၇။ မမေးဘဲကို မဆိုနှင့်။
၆၈။ မမေးဘဲ မပြောနှင့်၊ မတွေးဘဲ မလောနှင့်။
၆၉။ မမျိုဘဲနှင့်ဝ၊ မလိုဘဲနှင့်ရ။

၇၀။ မမြင်ဘူး၊ မှူးမြစ်ထင်။

၇၁။ မမြင့်ဝံ့ဆေးဆရာ၊ မကြားဝံ့ တရားသူကြီး။

၇၂။ မမှားသောရှေ့နေ၊ မသေသော ဆေးသမား။

၇၃။ မမှီတဲ့ပန်း၊ တုံးခုတ်လှမ်း။

၇၄။ မယားဆိုးလင်၊ တငင်ငင်။

၇၅။ မယားတိမ်ညင်၊ လင်မုဆိုး။

၇၆။ မယားနေစ၊ ကြောင်သေမှ။

၇၇။ မယားနှင့်နွား၊ မသနားနှင့်။

၇၈။ မယားထိ၊ ဓားကြည့်။

၇၉။ မယားပါ၊ ဓားစာ။

၈၀။ မယားပါသား နောက်လိုက်ခေါ်။

၈၁။ မယားမကောင်း ကျွန်ပြော။

၈၂။ မယားမညီ ညော့်မလှ။

၈၃။ မယားမရှိဘဲနှင့် တင်းတိမ်တကာကာ။

၈၄။ မယားများလျှင် မုသားပြောသည်။

၈၅။ မယိုသည့်ပြင်၊ ပို၍ဝင်။

၈၆။ မယုံ၊ ငါ့မယားမေး။

၈၇။ မရောင်ရာ ဆီလူး။

၈၈။ မရ၊ ရသကချိုင်။

၈၉။ မရသာ၊ ဖျာယူခဲ့။

၉၀။ မရသာ၊ ဘနဖူး၊ သိုက်တူး။

၉၁။ မရဲဘဲနှင့် ကျဲပြဲစီး။

၉၂။ မရဲသော်လည်း၊ ပြေးခဲ့စေ။

၉၃။ မရောင်းဖြစ်လျှင်၊ ခုံတိုင်တယ်၊ မဝယ်ဖြစ်လျှင် စရန်ဆုံး။

၉၄။ မရွယ်ဘဲနှင့် စော်ကဲမင်းဖြစ်။

၉၅။ မရှိခိုးနိုး၊ မလှစုန်းယိုး။

၉၆။ မရှိတာထက်၊ မသိတာခက်။

၉၇။ မရှိမခင်၊ ရှိသခင်။

၉၈။ မရှိရှား၊ ပေါ်များ။

၉၉။ မရှိလို့ မလှူ၊ မလှူလို့ မရှိ။

၁၀၀။ မရှိဝမ်းစာ၊ ရှိတန်ဆာ။

၁၀၁။ မလိုလို့ ကူးတို့ခ တောင်းသည်။
၁၀၂။ မလင်းခင်က နေထွက်။
၁၀၃။ မလုံတဲ့အိုး၊ တုတ်မိုးရှုံနှင့်အာ။
၁၀၄။ မလိမ္မာ၊ တခါမိုက်စမြဲ။
၁၀၅။ မသာတခေါက်၊ ကျောင်းဆယ်ခေါက်။
၁၀၆။ မသာတလက်မနှင့် ရွှေဘုံရွှေနန်းဖွဲ့။
၁၀၇။ မလှစုန်းယိုး၊ မရှိခိုးနိုး။
၁၀၈။ မလှရသည့်အထဲ မှဲ့ပြ။
၁၀၉။ မလှူလို့မရှိ၊ မရှိလို့မလှူ။
၁၁၀။ မလှန်လျှင် ကျွန်သပေါက်၊ ပြန်လျှင် အထက်ရောက်။
၁၁၁။ မလှုပ်တလှုပ်နှင့် တုတ်တိုထိ။
၁၁၂။ မလျှော့မတင်း၊ စောင်းကြိုးညှင်း။
၁၁၃။ မသာလက်ဖက်နှင့် လက်ဆောင်တက်။
၁၁၄။ မသိတိတ်တိတ်နေ၊ မသေတုတ်နှင့်ထိုး။
၁၁၅။ မသိမေး၊ မစင်ဆေး။
၁၁၆။ မသိသူကျော်သွား၊ သိသူဖော်စား။
၁၁၇။ မသိသူသာမသိ၊ မချိသူမှာမချိ။
၁၁၈။ မသူတော်ဘုန်းတက်၊ ပြည်ပျက်။
၁၁၉။ မသေရွှေထီး၊ သေမြေကြီး။
၁၂၀။ မသေဝံ့ရာ၊ ဖျာကွယ်။
၁၂၁။ မသေသော်၊ မလျှော်လား။
၁၂၂။ မသေသည့်နွား လင်းတမကျ။
၁၂၃။ မသွားလိုခရီးဝေး၊ သွားလိုအနီးလေး။
၁၂၄။ မဟုတ်ဘဲမကျော်၊ မပုပ်ဘဲမပေါ်။
၁၂၅။ မဟုတ်လုပ်၊ မဟတ်ဖြစ်။
၁၂၆။ မအားရာ၊ ယားနာပေါက်။
၁၂၇။ မအိုဘဲနှင့်ကျ၊ မပျိုဘဲနှင့်လှ။
၁၂၈။ မအိပ်မစား၊ ဘုရားမဖြစ်။
၁၂၉။ မအိပ်မနေ၊ အသက်ရှည်။
၁၃၀။ မအိပ်ရဘဲ၊ အိပ်မက်မက်။
၁၃၁။ မာလျှင်သံချောင်း၊ ပျော့လျှင်ဖယောင်း။

၁၃၂။ မိကျောင်းကို ရေမှာလွှတ်၊ ဖွတ်တောထဲပို့။
၁၃၃။ မိကျောင်းကိုက်တဲ့ဆိပ်၊ ရေချိုးမိလျက်သား။
၁၃၄။ မိကျောင်းမင်း ရေခင်းပြ။
၁၃၅။ မိကျောင်းမှန် ဆန်လိမ့်မည်၊ ထင်းဖြစ်တုံ၊ စုန်လိမ့်မည်။
၁၃၆။ မိကျောင်းမှန်းမသိ၊ ထင်းတုံးမှန်းမသိ။
၁၃၇။ မိကျောင်းလို ခေါင်းဖြူလေ ရဲလေ။
၁၃၈။ မိဘကို မပြောခင်၊ အနောက်ခန်းကိုပြင်။
၁၃၉။ မိဘစကား၊ နားထောင်ငြား၊ သံပြားကျောက်စောင်း၊ ကျိုသော်ပျောင်း။
၁၄၀။ မိဘကိုနိုင်လိုနားသွင်း၊ ဆရာကိုနိုင်လို ဝပ်စင်း။
၁၄၁။ မိဘဒဏ် သားသမီးခံ။
၁၄၂။ မိဘစကား နားမထောင်၊ သားတကောင်နှင့်တိုးလို့တွဲလဲ။
၁၄၃။ မိဖုရားကင်းကိုက်၊ ပြာလောင်ဆိုက်။
၁၄၄။ မိအေး နှစ်ခါနာ။
၁၄၅။ မီးကြီး ငြိမ်းခို။
၁၄၆။ မီးကြီးမီးနိုင်၊ ရေကြီးရေနိုင်။
၁၄၇။ မီးခိုးမဆုံး၊ မိုးမဆုံး။
၁၄၈။ မီးခဲ ပြာဖုံး။
၁၄၉။ မီးစတဖက်၊ ရေမှုတ်တဖက်။
၁၅၀။ မီးစဉ်ကြည့်၍ က,ရ။
၁၅၁။ မီးပြင်းခိုက်၊ ရေလိုက်လို့ မနိုင်။
၁၅၂။ မီးဖိုချောင်ကောင်းမှ၊ ကျောင်းဆောက်ရ။
၁၅၃။ မီးဖိုနား ယမ်းအိုးထား။
၁၅၄။ မီးမရှိဘဲ မီးခိုးမထွက်နိုင်။
၁၅၅။ မီးမလောင်မီက တားမှ။
၁၅၆။ မီးမသေ၊ ရေမနောက်။
၁၅၇။ မီးယုံ၍ ခွေးမတိုး။
၁၅၈။ မီးရောင် ရွှေတောင်မှတ်။
၁၅၉။ မီးရှိမရှိ၊ အခိုးကြောင့်သိ။
၁၆၀။ မီးလောင်ရာ ဖျာတောင်း။
၁၆၁။ မီးလောင်ရာ လေပင့်။
၁၆၂။ မီးဝေး ချိတ်မာ။

၁၆၃။ မုတ မပါ လက်ာမချော။
၁၆၄။ မုသားမပါ လက်ာမချော။
၁၆၅။ မုဆိုးကံ၊ တံငါဘုန်း။
၁၆၆။ မုဆိုး စိုင်သင်။
၁၆၇။ မုဆိုးနားနီး မုဆိုး၊ တံငါနားနီး တံငါ။
၁၆၈။ မုဆိုးမအိမ်၊ ခါးပင်မထက်။
၁၆၉။ မုဆိုးမအိမ်ထောင်၊ ခွေးပင်မဟောင်။
၁၇၀။ မူးလွန်းလျှင်မိုက်၊ ထူလွန်းလျှင်အိုက်။
၁၇၁။ မူးပြည့်ပုလဲ၊ သူဆင်းရဲနှင့်မတန်။
၁၇၂။ မူးလျှိုး၊ ပဲလျှိုး၊ ဖြိုးကျွန်ဖြစ်။
၁၇၃။ မေတ္တာဆောင်လျှင်ရဲ၊ သစ္စာနှောင်လျှင်မြဲ။
၁၇၄။ မေတ္တာရောက်က တဟီးဟီး၊ မေတ္တာမရောက်က တသီးသီး။
၁၇၅။ မေတ္တာလွန်သော် ရာဂ။
၁၇၆။ မေးဖန်များ စကားရ။
၁၇၇။ မဲကိုမုံပြု၊ မုံကိုမဲပြု။
၁၇၈။ မဲနှင့်နီပါး အတူထား၊ နီပါးမဲစော်နံ။
၁၇၉။ မောဟကြီးသူ စကားအို၊ ကောဓကြီးသူ စကားယို။
၁၈၀။ မောဟဖုံးလွှမ်း၊ တောင်မြောက်မှန်းမသိ။
၁၈၁။ မော်လွန်းလျှင်မှိုင်ရ၊ ပျော်လွန်းလျှင်ငိုင်ရ။
၁၈၂။ မိုးကောင်း၊ တစလောင်း၊ မိုးမကောင်း၊ တစလောင်း။
၁၈၃။ မိုးကောင်းမှ ပျိုးသန်။
၁၈၄။ မိုးကိုလင့်၍ ပျိုးရင့်သည်။
၁၈၅။ မိုးကြိုးပစ်ရာ ထန်းလက်ကာ။
၁၈၆။ မိုးခေါင်ခေါင်၊ ငါ့သျှောင်ဘယ်သူဆွဲပဲ့။
၁၈၇။ မိုးစနေ၊ လေရာဟု။
၁၈၈။ မိုးစိုလေ၊ သားရေပြင်းလေ။
၁၈၉။ မိုးတောင်က၊ ပွေးပေါင်က။
၁၉၀။ မိုးနည်း၍ ထီးဝေး။
၁၉၁။ မိုးနှင့်နွားသိုး အစိုးမရ။
၁၉၂။ မိုးနှင့်နွေဆောင်း၊ ခြေကောင်းမှသိ။
၁၉၃။ မိုးပြို အများနည်း။

၁၉၄။ မိုးမစွမ်း တောင်ရှိုးလျှောက်၊ လူမစွမ်း တောင်ဝှေးထောက်။
၁၉၅။ မိုးမပြိုဘူး ပြိုခဲ့သော်။
၁၉၆။ မိုးမယိုမှ လူခိုသည်။
၁၉၇။ မိုးမရွာ ဘာကိုစုတ်ပါ့မယ်။
၁၉၈။ မိုးရိပ်ရှုံနှင့် ဆီးခဲ။
၁၉၉။ မိုးရိပ်လာ၊ ဒူးနာထ။
၂၀၀။ မိုးလွန်မှ ထွန်ချ။
၂၀၁။ မိုးသံကြား၊ ပွေးယား။
၂၀၂။ မက်လု မက်လုနှင့်မိုးလင်း။
၂၀၃။ မင်းကတော် ကျွန်ပုံပေါက်၊ ခွေးလောက် မကောင်း။
၂၀၄။ မင်းခယောကျ်ား၊ ကမ်းနားသစ်ပင်။
၂၀၅။ မင်းခ၊ ရွာရ။
၂၀၆။ မင်းခေါင်းခဲ၊ သဲသည်။
၂၀၇။ မင်းတုတု၊ ခွေးသေသေ။
၂၀၈။ မင်းတို့စကား၊ မိုးကြိုးသွား။
၂၀၉။ မင်းတို့ထွက်၊ ရက်ရာဇာ။
၂၁၀။ မင်းနားတထောင်၊ မင်းမြှောင်တသိန်း။
၂၁၁။ မင်းပင်ကောင်းလျက်၊ မင်းမြှောင်ဖျက်။
၂၁၂။ မင်းဘဏ္ဍာ ကိုယ်ဟာမှတ်လို့။
၂၁၃။ မင်းမရှိသောပြည်၊ အမှုသည် မရှိသောတရား။
၂၁၄။ မင်းမသိ ဗြဟ္မဒတ်၊ ပြည်မသိ ဗာရာဏသီ။
၂၁၅။ မင်းမှာသစ္စာ၊ လူမှာကတိ။
၂၁၆။ မင်းလိုလိုက် မင်းကြိုက်။
၂၁၇။ မင်းလိုသော်လက်ဆောင်၊ ရန်အောင်လိုသော် မေတ္တာ။
၂၁၈။ မင်းလည်းအာဏာ၊ ငါလည်းကြောက်ဖွယ်။
၂၁၉။ မင်းသားကြီး မလုပ်ရ၍ ပတ်မကြီး ဖောက်ပစ်။
၂၂၀။ မတ်တတ်စာရှိ၊ တုံးလုံးစာမရှိ။
၂၂၁။ မိန်းမကို စေသော်မခံနိုင်၊ ယောကျ်ားကို စေသော်၊ မပြီးနိုင်။
၂၂၂။ မိန်းမကောင်းပန်းပန် တပွင့်တန်။
၂၂၃။ မိန်းမကောင်းပြည့်တန်ဆာနှယ်ကျင့်သော် လင်ကောင်းမရ။
၂၂၄။ မိန်းမကြိုက်ကမျှော်လိုက်တာ၊ ယောကျ်ားကြိုက်က စိုက်စိုက်လာ။

၂၂၅။ မိန်းမချင်း ပေါင်တင်။
၂၂၆။ မိန်းမဆိုလျှင်၊ ခြေမလက်မပင် ပယ်ချင်သည်။
၂၂၇။ မိန်းမတို့ဘုန်း၊ ဆံထုံး။
၂၂၈။ မိန်းမပျင်း ခြေဆင်း၊ ယောကျ်ားပျင်း ကျောခင်း။
၂၂၉။ မိန်းမဖက် ပြည်ပျက်။
၂၃၀။ မိန်းမမကောင်းထင်၊ ဆောင်ဝင်မှသိ။
၂၃၁။ မိန်းမမာယာ သဲကိုးဖျာ။
၂၃၂။ မိန်းမမီးနေ၊ ယောကျ်ားဖောင်စီး။
၂၃၃။ မိန်းမအလိုလိုက်၊ ဦးစိုက်။
၂၃၄။ မုတ်ဆိတ်ပျားစွဲ။
၂၃၅။ မုန်ညင်းစေ့ကို၊ မြင့်မိုတောင်နှင့်ဖိ။
၂၃၆။ မုန်ညင်းပင်အောက်လျှိုးမှ၊ မုန်ညင်းပင်စောင့်နတ်သတ်။
၂၃၇။ မုန်းစကိုတိုစေ၊ ချစ်စကိုရှည်စေ။
၂၃၈။ မုန်းစေလိုလည်း ခံတွင်းလက်လေးသစ်၊ ချစ်စေလိုလည်း ခံတွင်းလက်လေးသစ်။
၂၃၉။ မုန်းတင်းပြောလျှင် တိုက်။
၂၄၀။ မုန်းလျှင်အပြစ်၊ ချစ်လျှင်အကျိုး။
၂၄၁။ မုံ့စားတုန်း လှည်းစီး။
၂၄၂။ မုံ့ဆီကြော် ဘယ်နေမှန်းမသိ၊ နှုတ်ခမ်းနာနှင့်သင့်ပါ့မည်လားမေး။
၂၄၃။ မုံ့တဖွဲ့၊ အလှဲ့ကြွဲ။
၂၄၄။ မုံ့ပေးသည့်ဘုန်းကြီးစာတတ်။
၂၄၅။ မုံ့သည်မသား၊ မုန့်နားစား။
၂၄၆။ မောက်မောက်မာမာပြော ဒဏ်သင့်၊ ထောက်ထောက်ညာညာပြောရန်လွှင့်။
၂၄၇။ မောက်လွန်းကြွကြွ၊ ရှိလွန်းက၊ လျှောကျနောက်ဆုံးရှိချေသည်။
၂၄၈။ မောက်လွန်းသည့်ဆန်၊ ဖိတ်သည်။
၂၄၉။ မောင်ကောင်းစား နှစ်မမီးချောင်။
၂၅၀။ မောင်ခေါ် လို့ ဗျာမထူး၊ အောင်ကျော်ခေါ် မှ ဘုရားထူး။
၂၅၁။ မောင်ဆိုလေ၊ ထီးရှိုးရှေ။
၂၅၂။ မောင်မင်းလုပ်စာ၊ မောင်မင်းဝမ်းနှင့်တန်ကာ။
၂၅၃။ မိုက်လျှင် သူ့ကျွန်။
၂၅၄။ မျိုးချင်းထပ်မြတ်၊ ဆွေချင်းခြဲလို့။
၂၅၅။ မျိုးစေ့မမှန်၊ အပင်မသန်။

၂၅၆။ မျက်ခမ်းစပ်က၊ သက္ကလပ်ကြည့်။
၂၅၇။ မျက်ခမ်းစပ်၊ စာဖတ်ထည့်။
၂၅၈။ မျက်စပိုးဝင်၊ ဆံတပင်တင်း၊ ချစ်ခြင်းမယား။
၂၅၉။ မျက်စိကန်း တစ္ဆေမကြောက်။
၂၆၀။ မျက်စိကန်း လမ်းပြ။
၂၆၁။ မျက်စိထက်ဗေဒင်၊ မမှန်ချင်နှင့်။
၂၆၂။ မျက်စိလည်လေ၊ ဆွမ်းဆန်ရလေ။
၂၆၃။ မျက်နှာကြီးငယ်သူခွင်မှာသိ၊ ပညာကြီးငယ် ပွဲဝင်မှာသိ။
၂၆၄။ မျက်နှာကြီးရာ၊ ဟင်းဖတ်ပါ။
၂၆၅။ မျက်နှာချောလျှင်၊ အရောင်တင်မလို။
၂၆၆။ မျက်နှာချို သျှိုတပါး။
၂၆၇။ မျက်နှာထားကွက်ကြား၊ စိတ်ကွက်ကြား။
၂၆၈။ မျက်နှာများလျှင်၊ ချော့အားသန်။
၂၆၉။ မျက်နှာမြင် ချစ်ခင်။
၂၇၀။ မျက်နှာလို၊ မျက်နှာရ။
၂၇၁။ မျက်နှာလွှဲ၊ ခဲပစ်။
၂၇၂။ မျက်နှာသာပေး၊ ရွှေရေးပန်းကန်တက်။
၂၇၃။ မျက်နှာသိ၊ ငါးပိမဝယ်နှင့်။
၂၇၄။ မျက်နှာသိ ဖိထောင်း။
၂၇၅။ မျက်ဖြူဆိုက်လေ၊ ဆရာကြိုက်လေ။
၂၇၆။ မျက်မျက်စားချင်လို့ ဆိုင်းထဲလိုက်၊ နဲ့ခွက်နင်းမိ၍ ငွေလျော်ရ။
၂၇၇။ မျက်မြင်ကို၊ မြက်ပင်မလုပ်နှင့်။
၂၇၈။ မျက်မွေးထော်လော်၊ မော်မကြည့်ဝံ့။
၂၇၉။ မျောက်ကို ထမ်းပိုးအပ်သလို။
၂၈၀။ မျောက်ကို မျက်စဥ်းခတ်သလို။
၂၈၁။ မျောက်ကိုမြင်၊ အုတ်ခဲနှင့်ပစ်ချင်။
၂၈၂။ မျောက်ငရုတ်ဆုံ ထိုင်မိသလို။
၂၈၃။ မျောက်ပါးစပ်က နတ်စကားထွက်။
၂၈၄။ မျောက်ပြ၍ ဆန်တောင်းသည်။
၂၈၅။ မျောက်ဖင်၊ ခြင်ကိုက်သလို။
၂၈၆။ မျောက်ဖင် သမန်းရှသလို။

၂၈၇။ မျောက်မီးခဲ ထိုင်မိသလို။
၂၈၈။ မျောက်သားစားချင်၊ မျောက်မျက်နှာမကြည့်နှင့်။
၂၈၉။ မျောက်သစ်ကိုင်းလွတ်သလို။
၂၉၀။ မြားကောက်နှင့် ပစ်သလို။
၂၉၁။ မြေကြီးတပဲ၊ ဆေးတလွဲ။
၂၉၂။ မြေကြီးလက်ခတ်မလွဲ။
၂၉၃။ မြေခွေးစဉ်လျက် ကျေးဇူးဆက်။
၂၉၄။ မြေစမ်း ခရမ်းပျိုး။
၂၉၅။ မြေညီရာ တလင်း။
၂၉၆။ မြေနိမ့်ရာ လှံစိုက်။
၂၉၇။ မြေလည်းမပုံနှင့်၊ လူလည်းမယုံနှင့်။
၂၉၈။ မြေးကားအရင်း၊ သားကားအဖျား။
၂၉၉။ မြေးတရာရ၊ သားတဖျာပြည့်။
၃၀၀။ မြို့အုပ်မင်းဆောင်မှ၊ ထောင်ကျ။
၃၀၁။ မြက်လျှောမြွေလုပ်လို့၊ တုတ်မဆောင်။
၃၀၂။ မြင်ဖန်များလျှင်ငယ်၊ နမ်းဖန်များလျှင်ပြယ်။
၃၀၃။ မြင်မတော် ဆင်တော်နှင့်ခလောက်။
၃၀၄။ မြင်မှသိ၊ ထိမှတွေ့သည်။
၃၀၅။ မြင့်စေလိုလို့ နတ်ပြည်တင်၊ မတက်ချင်၍ခုန်ချ။
၃၀၆။ မြင့်မိုရ်တောင် ဇီးစေ့နှင့်ချိန်။
၃၀၇။ မြင့်လျှင်နေလ၊ နိမ့်လျှင်ကြက်မ။
၃၀၈။ မြင်းကမလှုပ်၊ ခုံကလှုပ်။
၃၀၉။ မြင်းကိုစီး၍မှ အထီး အမ မှန်းမသိ။
၃၁၀။ မြင်းကောင်းခွာလိပ်။
၃၁၁။ မြင်းကောင်းပြေးရာ၊ ခွါကျိုးကန့်လန့်။
၃၁၂။ မြင်းစီးလိမ္မာ၊ ဇက်သာဆုပ်သည်။
၃၁၃။ မြင်းညို ကျိုင်းကိုမလန့်။
၃၁၄။ မြင်းနွားလှန်အစာဝ၊ ကျွန်ကိုလှန်မကြံရ။
၃၁၅။ မြင်းနှင့်နွား စားရင်းသေ။
၃၁၆။ မြင်းမတန်းမ၊ ဇောင်းကလွတ်သလို။
၃၁၇။ မြင်းအုန်းခုံ၊ ကျွန်ကုလား၊ မယားတောသူ။

၃၁၈။ မြစ်ကြီးငါးသွယ်၊ မြစ်ငယ်ငါးရာ။
၃၁၉။ မြစ်ကြီး၍ ငါးမသေ။
၃၂၀။ မြစ်တဖက်၊ ဝက်လက်ကင်။
၃၂၁။ မြစ်မမြင်ဘူး၊ မူးမြစ်ထင်။
၃၂၂။ မြစ်မရေနက်၊ သောင်ပြင်ဖျက်။
၃၂၃။ မြန်မာကောက် ပဲနောက်ကိုးတင်း။
၃၂၄။ မြန်မာစော နေထွက်။
၃၂၅။ မြန်မာစော ရှမ်းတောကပြန်။
၃၂၆။ မြန်မာအတွေး၊ ရှမ်းအပြေး။
၃၂၇။ မြန်မာအို၊ ကျောင်းကြို ကျောင်းကြား။
၃၂၈။ မြိန်ရာဟင်းကောင်း၊ ခင်ရာဆွေမျိုး။
၃၂၉။ မြို့ထဲမှာ ကြက်မကိုရစ်။
၃၃၀။ မြောင်းငယ်မကျော်လောက်၊ လှေငယ်မလှော်လောက်။
၃၃၁။ မြှောက်ပေးလျှင်၊ အောက်သွေးအထက်ရောက်။
၃၃၂။ မွေးကထဲ အကွဲပါ၊ ဗိန္ဓောဆရာ ကုလို့မရ။
၃၃၃။ မွှဲချင်သည့်ခွေး၊ ပြာပုံမှာဝပ်။
၃၃၄။ မှာထားကောင်းလျက်၊ အောင်သွယ်ဖျက်။
၃၃၅။ မှားဘူးမှ မှန်၊ ကြံဘူးမှ ရဲ။
၃၃၆။ မှီခိုလောက်မှ၊ လူရောက်သည်။
၃၃၇။ မှန်ကင်းတလှည့်၊ ထင်းတလှည့်။
၃၃၈။ မှန်ရာဆို နာလိုခံခက် အမျက်ထွက်။
၃၃၉။ မှန်ရာပြော သစ္စာ။
၃၄၀။ မှော်ထဲကျွဲတိုး၊ ကျွဲကူးရေပါ။
၃၄၁။ မှိုကိုးနှစ်၊ မျှစ်ကိုးလ။
၃၄၂။ မှိုချိုး မျှစ်ချိုး။
၃၄၃။ မှိုရမျက်နှာ ချိုသာသာ။
၃၄၄။ မြွေကိုတံတား၊ ကျားကို ခလုတ်။
၃၄၅။ မြွေကိုက်၍ ကျားစား။
၃၄၆။ မြွေပါလည်းဆုံး၊ သားလည်းဆုံး။
၃၄၇။ မြွေပူရာ ကင်းမှောင့်။
၃၄၈။ မြွေပွေး ခါးပိုက်ပိုက်။

၃၄၉။ မြွေပွေး ဒဏ်ခံ။
၃၅၀။ မြွေပွေးပိုးထိ။
၃၅၁။ မြွေသေ တုတ်မကျိုး။
၃၅၂။ မြွေမှန်လျှင် တွင်းဝင်ဖြောင့်။
၃၅၃။ မြွေမြွေချင်း ခြေမြင်။
၃၅၄။ မွေးလျှင်ပန်၊ နံလျှင်ပစ်။
၃၅၅။ မျှမှညီ၊ ချိမှမြောက်သည်။

## (ယ)

၁။ ယခုရှုပ်မှ၊ နောင်ရှင်း။
၂။ ယတြာကောင်းက၊ မင်းလောင်းပျောက်။
၃။ ယာ ကဆုန်၊ လယ် နယုန်။
၄။ ယာဂုအိုးကွဲခါမှ၊ ရွှေစည်းခံ့လှူ။
၅။ ယာရှင် မျောက်မောင်း။
၆။ ယားနာ ခူတက်။
၇။ ယားရာမှာ မကုတ်အား။
၈။ ယုယလွန်း၊ ပွန်း။
၉။ ယူဖန်များ၊ ပျားလဘိုဖြစ်။
၁၀။ ယိုသူမရှက်၊ မြင်သူရှက်။
၁၁။ ယောကျ်ားကောင်း မောင်းမတထောင်။
၁၂။ ယောကျ်ားတံခွန် လူရည်ချွန်။
၁၃။ ယောကျ်ားတို့ဘုန်း လက်ရုံး။
၁၄။ ယောကျ်ားတို့လက်မောင်း၊ ဆင်နှာမောင်း။
၁၅။ ယောကျ်ားပျင်း၊ ကျောခင်း။
၁၆။ ယောကျ်ားဖျက်၊ အရက်။
၁၇။ ယောကျ်ားဖောင်စီး၊ မိန်းမမီးနေ။
၁၈။ ယောကျ်ားရန်စစ်၊ ဆုတ်နစ်ရ၏။
၁၉။ ယောကျ်ားလကျ်ာ၊ မ မှာလက်ဝဲ။
၂၀။ ယောကျ်ားဝါဆို၊ မိန်းမပြာသို။
၂၁။ ယောက္ခမနို့ သမက်မစို့ဝံ့။

၂၂။ ယောက္ခမ မနာလို၊ သားမိန်းမမွေး။
၂၃။ ယောက္ခမမျက်ခွက် သမက်မကြည့်ဝံ့။
၂၄။ ယောက္ခမ သေမှန်းသိ မြင်းဝယ်၍ မစီးရလား။
၂၅။ ယောက်မကြီးရာ၊ ဟင်းဖတ်ပါ။
၂၆။ ယောက်ဖ ယောက်ဖနှင့် ပတောက်ကိုနှိုက်။
၂၇။ ယောင်ကြီးလျှင်ငိုက်၊ လူကြီးလျှင်မိုက်။
၂၈။ ယောင်နောက် ဆံထုံးပါ။
၂၉။ ယမ်းပုံနား မီးထား။
၃၀။ ယမ်းပုံမီးကျ၊ ဒေါပွတုန်းရန်ဖြစ်။
၃၁။ ယုန်ကျူးချည်၊ ခွေးကျူးချည်။
၃၂။ ယုန်တောင်ပြေး၊ ခွေးမြောက်လိုက်။
၃၃။ ယုန်ထောင် ကြောင်မိ။
၃၄။ ယုန်မရခင် သံပုရာရှာ။
၃၅။ ယုန်လိုက်သော် ခါးတုတ်တုတ်၊ ဟင်းသောက်သော် နှာရှုပ်ရှုပ်။
၃၆။ ယုန်ဝပ်ကျင်းထ။
၃၇။ ယုန်အတွက် ခြုံကကြောင့်ကြ။
၃၈။ ယုံသော်လည်း ပုံခဲသည်။

(ရ)

၁။ ရခိုင်သား ရေကူးတတ်သလားမေး။
၂။ ရတနာရှိရာ ရတနာစု။
၃။ ရတာမလို၊ လိုတာမရ။
၄။ ရတင်ချင်၏ ငွေကရှား။
၅။ ရထားအလံ၊ မီးလျှံအခိုး။
၆။ ရလျှင်ယူ၊ ထလျှင်ထူ။
၇။ ရသာခြောက်ပါး၊ ဆားမပါဘိ၊ ပျက်သိသိ။
၈။ ရသာလျှင် ဘနဖူး သိုက်တူး။
၉။ ရဟန်းတရား၊ ကျင့်မူထား၊ ဖြူငြားချင်လျက်၊ အစားဖျက်။
၁၀။ ရာဇမံဆယ်ပါး၊ မင်းကောင်းမှညား။
၁၁။ ရာဇပရိယာယ်၊ ဉာဏ်ရေးချယ်။

၁၂။ ရာဇဝင်ပြောင်၊ အိမ်ထောင်မှုလပ်။
၁၃။ ရာဇဝင်ဘေး၊ ပြေးမလွတ်။
၁၄။ ရာဇဝတ်ရေး၊ ပေါက်နှင့်ကျေး။
၁၅။ ရာဇဝတ်အိုး၊ တုတ်နှင့်ထိုး။
၁၆။ ရာသီမသိ၊ ပန်းနှင့်ညှိ။
၁၇။ ရိုသဲ့သဲ့နှင့် ငပဲ့ ခေါင်းတုံးအဖတ်တင်။
၁၈။ ရှုးကျွန်ပြု၍ကပ်၊ သွပ်ကျွန်ပြု၍ချောင်း။
၁၉။ ရေကုန် အိုင်ပျက်။
၂၀။ ရေကြည်ရာ၊ မြက်နုရာ။
၂၁။ ရေကြောင့်နှံ့ဖြစ်၊ နှံ့ကြောင့် ရေနောက်။
၂၂။ ရေငတ်တုန်း၊ ရေတွင်းထဲကျ။
၂၃။ ရေစီးတခါ၊ ရေသာတလှည့်။
၂၄။ ရေစီးလျှင် ကမ်းပြင်မရှိ။
၂၅။ ရေဆုတွင် အရိပ်မထင်။
၂၆။ ရေတအိုး၊ မိုးတပေါက်။
၂၇။ ရေတိမ်ရေနက်သိလိုသော် ကြာစွယ်နှင့်ညှိ။
၂၈။ ရေနေမရှိဘဲ စောက်နက်ချင်။
၂၉။ ရေနေများချင်လျက် စောက်မနက်။
၃၀။ ရေနံသည်က ခေါင်းပေါင်းစထောင်။
၃၁။ ရေနက်မှာ မြက်နှုတ်မရ။
၃၂။ ရေနက်ကလဲနေရ၊ လင်းပက်လဲ စိုက်ရ။
၃၃။ ရေနက် ငါးကြီး၊ အရေးနက် လူကြီး။
၃၄။ ရေနစ်သူ ဝါးကူထိုး။
၃၅။ ရေပူနှင့်သတ်လည်းသေ၊ ရေအေးနှင့်သတ်လည်းသေ။
၃၆။ ရေဗူးနှင့်ဘိနပ်မပါ နွေခါမှသိ။
၃၇။ ရေမနောက်၊ ကြာမပေါက်။
၃၈။ ရေမနောက်မှလူသောက်၊ လိုချင်လောက်မှ လူကောက်။
၃၉။ ရေမပြည့်သောအိုး ဘောင်ဘင်ခပ်။
၄၀။ ရေမရောက်၊ ကြာမပေါက်။
၄၁။ ရေမရှိတဲ့အရပ် ချေးကိုင်မိ။
၄၂။ ရေမလာခင် ကန်သင်းဖို့။

၄၃။ ရေမှာလက်ကြား၊ လူမှာကပြား။
၄၄။ ရေများရာ မိုးရွာ။
၄၅။ ရေများရေနိုင်၊ မီးများမီးနိုင်။
၄၆။ ရေမြင့်လျှင် ကြာမြင့်။
၄၇။ ရေမှာရေး၍ အရုပ်မထင်။
၄၈။ ရေမှုတ်တဖက်၊ မီးစတဖက်။
၄၉။ ရေရှိ ငါးရှိ၊ လင်ရှိ သားရှိ။
၅၀။ ရေလာနီးဝေး မဆိုသာ၊ မိုးသာပမာန။
၅၁။ ရေဝေးသည့်ကြာ၊ ပွင့်မအာ။
၅၂။ ရေးစရာလည်း ကလောင်မရှိ၊ ထွေးစရာလည်း စောင်မရှိ။
၅၃။ ရေးတိုင်းမတတ်၊ တတ်တိုင်းမရေး။
၅၄။ ရဲသော်မသေ၊ သေသော် ငရဲမလား။
၅၅။ ရဲသော်ဇာနည်၊ မရဲသော် ဒါသီ။
၅၆။ ရောဂါတချက်၊ ဆေးဆယ်ခွက်။
၅၇။ ရောဂါနုရင့်၊ ဆေးနှင့်ခြင့်။
၅၈။ ရက်ချည်ထက် ချုပ်ချည်ပို။
၅၉။ ရက်စက်မှ ကြေကွဲ။
၆၀။ ရက်သဲ့ကြား ငါးတင်၊ ကျန်တဲ့ငါး ကြောင်စား။
၆၁။ ရင်ဆိုင်တွေ့လျက်၊ အပြေးခက်။
၆၂။ ရင်သွေးဟူက ချစ်မဝ။
၆၃။ ရည်းစားကိုလိမ်မှ၊ မယားကိုကျိန်မှ။
၆၄။ ရည်းစားတထောင်၊ လင်ကောင်တယောက်။
၆၅။ ရည်းစားဦး၊ မြေးဦးရတောင်မမေ့။
၆၆။ ရန်ကိုရန်ချင်း မတုံ့လျှင်းနှင့်။
၆၇။ ရန်စကိုတိုစေ၊ ချစ်စကိုရှည်စေ။
၆၈။ ရန်စ၊ မီးစ၊ ကြွေးစ၊ ဖျောက်ဖယ်ချ။
၆၉။ ရန်မလိုသော် ရန်ပြုသည်။
၇၀။ ရန်လိုသော် ရန်ပိုသည်။
၇၁။ ရန်သွယ်လျှင် ရန်ကျယ်သည်။
၇၂။ ရန်အိုရန်ကြွေး၊ အတိတ်မှာဆေး။
၇၃။ ရုပ်ဆိုး ရွာမကျော်။

၇၄။ ရယ်ဟရယ်ဟနှင့် နွားပြာကြီးအောက်သွားမရှိ။
၇၅။ ရယ်လွန်းလျှင်အူနာ ငယ်လွန်းလျှင်ချူချာ။
၇၆။ ရှိးပုံနှင့်ဆန်း။
၇၇။ ရှိးရှိးကျင့်၊ မြင့်မြင့်ကြံ။
၇၈။ ရှိးလွန်းလျှင် အ။
၇၉။ ရှန်းပင်ရှန်းလည်း စိတ်ကတွယ်ချင်။
၈၀။ ရှန်းနိုင်မှ ချောင်းကျော်။
၈၁။ ရှပ်လှသော်လည်း၊ စိတ်မလှ။
၈၂။ ရုပ်သာဆိုး၊ အမျိုးနန်းတွင်းသူ။
၈၃။ ရှိုးတရှိုး မားတစင်း။
၈၄။ ရောက်ချင်ပါ၊ လမ်းမသာ။
၈၅။ ရောက်လျှင်ရောက်ချင်း၊ ဆောက်နှင့်ထွင်း။
၈၆။ ရှိက်ရဲ ခံရဲ၊ လူမိုက်ဇွဲ။
၈၇။ ရွှရွှကလေးလှမ်း တသန်းတန်။
၈၈။ ရွာကဘုရား၊ ရွာသားမရှိသေ။
၈၉။ ရွာကိုလွန်၍ ရွှက်တိုက်။
၉၀။ ရွာတကာ့ဖင်၊ ဗုတလင်။
၉၁။ ရွာတွင် မြင်းကျူး၊ အဖိုးမနက်။
၉၂။ ရွာထဲခွေးသေ၊ လင်းတရှောင်သွေ။
၉၃။ ရွာနားကမြက် ရွာနွားမစား။
၉၄။ ရွာရှင်မင်းက ဝန်မင်းဖြစ်ချင်။
၉၅။ ရွာသားမင်းစေ၊ ရွာနေမရှက်။
၉၆။ ရွာအပြန် နွားပင်ခြေသွက်။
၉၇။ ရွှယ်တတ်မှနီး၊ သွယ်တတ်မှစီး။
၉၈။ ရှာမှရ၊ ရှမှပြတ်၏ ။
၉၉။ ရှာမှရှား၊ လွှာမှပါး။
၁၀၀။ ရှားစေးငါးရာ၊ တပြိန်းတည်းဖြစ်။
၁၀၁။ ရှားစေးဝယ်ခဲ့ပါဆို၊ ခွေးချေးဝယ်ခဲ့။
၁၀၂။ ရှားပင်အိုလေ၊ အနှစ်ပြည့်လေ။
၁၀၃။ ရှားလည်းကောင်း၊ မန်ကျည်းလည်းကောင်း။
၁၀၄။ ရှိလျှင်တန်ဆာ၊ မရှိလျှင်ဝမ်းစာ။

၁၀၅။ ရှိသာခိုး၊ အငြိုးနှင့်။
၁၀၆။ ရှေ့ကိုတိုးထမ်းပိုး၊ နောက်ကိုဆုတ်လှည်းတုတ်။
၁၀၇။ ရှေ့ကလည်းနေချင်၊ ကျောလည်းမပေးဝံ့။
၁၀၈။ ရှေ့ဆောင်နွားလား၊ ဖြောင့်ဖြောင့်သွား၊ နောက်နွားစဉ်စိုက်၊ ဖြောင့်ဖြောင့်လိုက်။
၁၀၉။ ရှေ့နေကောင်း၊ ဖျင်လက်ပင့်ကာ။
၁၁၀။ ရှေးကဝိပါက် ခုနစ်ရက်၊ ကာလဝိပါက် နောက်ပိုးတက်။
၁၁၁။ ရှေးထုံးပယ်ကလွဲ၊ ဈေးသုံးလွှယ်ကမွဲ။
၁၁၂။ ရှေးထုံးလည်း မပယ်နှင့်၊ ဈေးသုံးလည်း မလွှယ်နှင့်။
၁၁၃။ ရှေးလည်းမဆန်နှင့်၊ ဘေးလည်းမကန်နှင့်။
၁၁၄။ ရှောတိုးနှင့်မိုးကြိုး တိုးချင်တာတိုး။
၁၁၅။ ရှောမွှေးတကောင်နှင့် ဗာရာဏသီချွဲ့။
၁၁၆။ ရှက်သာရှက်၊ လည်ထွက်အောင်ကဲ။
၁၁၇။ ရှင်ကိုဖျက်ဓဇာ်၊ လူကိုဖျက်အရက်။
၁၁၈။ ရှင်ကိုလှူ၊ လူကိုမျှ။
၁၁၉။ ရှင်ကိုအတင့်၊ ပညာကိုအခြင့်။
၁၂၀။ ရှင်ကြီးဝမ်းလည်းဝင်၊ ရှင်ငယ်ဝမ်းလည်းဝင်ခဲ့ပြီ။
၁၂၁။ ရှင်နည်းရာ အဂ္ဂလူထွက်။
၁၂၂။ ရှင်ဘုရင်တခါထွက်၊ ပဲကြီးတလှေချက်။
၁၂၃။ ရှင်ဘုရင်တို့ဘုန်း၊ မိုးသို့ချုန်း။
၁၂၄။ ရှင်ဘုရင်ပုဆိုး ပိုးချည်း။
၁၂၅။ ရှင်ဘုရင်လုပ်၊ ဘုန်းရှိန်နှင့်အုပ်။
၁၂၆။ ရှင်ဘုရင်အလို ဘုန်းရိပ်ထက်ပို။
၁၂၇။ ရှင်မပြုခင်က လူထွက်ချင်။
၁၂၈။ ရှင်မှလန်း၊ တန်းမှဖြောင့်သည်။
၁၂၉။ ရှည်လိုဆက်၊ တိုလိုဖြတ်။
၁၃၀။ ရှမ်းကြိုက် နွားချော။
၁၃၁။ ရှမ်းနှင့်ဆင် လယ်ပြင်ကျမှသိ။
၁၃၂။ ရှမ်းပြည် တရားမရှိ။
၁၃၃။ ရှမ်းပြည် ရေခဲနှင့်ယပ်ရောင်း။
၁၃၄။ ရှမ်းရှင်ပြု အလှယ်ကလေး။
၁၃၅။ ရှမ်းလည်းဖြစ်ပြန်၊ လအယ်လည်းမှည့်ပြန်။

၁၃၆။ ရွှောက်သီးသုပ် သမ္ဘရာရည်ညှစ်။
၁၃၇။ ရွှေကျောင်းကြီးဂုဏ်နှင့် ငါးကျော်မရှိဆို၍မယုံ။
၁၃၈။ ရွှေကျောင်းပြောင်ပြောင်၊ ဝမ်းဟောင်ဟောင်။
၁၃၉။ ရွှေချည်းထားအကောင်းသား၊ ကြေးနီရောမှမိုးကြိုးဖြစ်။
၁၄၀။ ရွှေစက်တော်ဖြောလို လူလာတိုင်းတီး။
၁၄၁။ ရွှေစင်လည်းပျက် ကြေးလည်းကွက်။
၁၄၂။ ရွှေတောင်ကြောင့် ရွှေပြောင်။
၁၄၃။ ရွှေနားတောင်းကြောင့် ပါးပြောင်။
၁၄၄။ ရွှေပင်နား ရွှေကျေး။
၁၄၅။ ရွှေဖလားခိုး အဖိုးပြင်မရှိ။
၁၄၆။ ရွှေဘယ်နားနေမှန်းမသိ၊ ပိုးစုတ်စု။
၁၄၇။ ရွှေမရှိ ခပ်ပြာ။
၁၄၈။ ရွှေမရှိသည့်ဘုရား လူမရှိသေ။
၁၄၉။ ရွှေရှိုးလို့ မိုးကြိုးပန်။
၁၅၀။ ရွှေရိပ်ငွေရိပ်ထက်၊ လေရိပ် မိုးရိပ်သိခဲ့။
၁၅၁။ ရွှေသမင် ဘယ်ကထွက်၊ မင်းကြီးတာက ထွက်။
၁၅၂။ ရွှေအကြောင်း ဖရောင်းသက်သေ။
၁၅၃။ ရွှေ့မှကွာ၊ ချာမှလည်သည်။
၁၅၄။ ရွှေမှဲ့ဆို ဖျာနား။
၁၅၅။ ရှိ့စိုရာ ရေပက်။
၁၅၆။ ရှိ့ပုပ် မျက်နှာစင်။
၁၅၇။ ရှိ့ပင်လုပ်လုပ်၊ ကြွက်စုတ်သေတာလိုရင်း။

## (လ)

၁။ လဘက်ကောင်းစားချင် ပလောင်တက်နှေးစေ။
၂။ လရောင်မြခိုက်၊ ပိုးချလိုက်။
၃။ လသာခိုက်ဗိုင်းဝင့်။
၄။ လာချင်အနီးလေး၊ မလာချင်ခရီးဝေး။
၅။ လာမည့်ဘေး ပြေးတွေ့။
၆။ လာမည့်ဘေး အဝေးကရှောင်။

၇။ လူကမြင်း၊ ဘေးဒဏ်ထိ။
၈။ လူကဘုန်းကြီး၊ စိတ်ထဲကစုန်းမီး။
၉။ လူကိုဖျက် အရက်။
၁၀။ လူကိုယုံလည်း၊ စကားကုန်မပြောနှင့်။
၁၁။ လူကိုအမျိုး၊ မြင်းကိုဇက်ကြိုး။
၁၂။ လူကြီးရှက်ကရယ်၊ ကလေးရှက်ကငို။
၁၃။ လူကြီးသော်လည်း လူကြီးပေါလော၊ လူငယ်သော်လည်း လူငယ်ဟုတ်တုတ်။
၁၄။ လူကြံလျှင် ထရံတုတ်ခနောင်းဖြစ်။
၁၅။ လူချင်းတူလည်း အသက်ရှုချင်းကွဲ။
၁၆။ လူဆိုးလူကောင်း ပေါင်းမှသိ။
၁၇။ လူညံ့ကို သင်၍မသွက်။
၁၈။ လူတကိုယ် ထင်တလုံး။
၁၉။ လူတွင်ပါ၍ နွားကျားကိုက်။
၂၀။ လူနာ ရှောက်သီးသုပ် ကျွေးသလို။
၂၁။ လူနာမသေ၊ လက္ခဏာသေ။
၂၂။ လူနာ အမဲခြောက်တောင်း။
၂၃။ လူနေခြုံကြား၊ စိတ်နေဘုံဖျား။
၂၄။ လူနေခြုံကြား နတ်စကားပြော။
၂၅။ လူပါး ပုလင်းထိ။
၂၆။ လူပု စိတ်တို၊ ခွေးပု ရန်လို။
၂၇။ လူပုံပတ္တလားနှင့် တပ်သားယိုသည့်ချေး။
၂၈။ လူပုံပတ္တလားနှင့် နတ်စကားပြော။
၂၉။ လူပုံ လင်းတမွေးနှင့် ရွှေကျေးစကားပြော။
၃၀။ လူပျင်းလုံ့လ တခဏ။
၃၁။ လူပျင်းအားကိုး တရှူးထိုး။
၃၂။ လူပြောမသန်၊ လူသန်မပြော။
၃၃။ လူဖြောင့်စိတ်တို၊ လူချိုစိတ်ကောက်။
၃၄။ လူမကောင်း အကြောင်းချ။
၃၅။ လူမစွမ်း နတ်မ။
၃၆။ လူမတတ်သော် လက်ဖက်ထုပ်တပ်။
၃၇။ လူမပြော ဝိုင်းပြော။

၃၈။ လူမရောက် မြင့်မိုရ်တောင်၊ ခွေးမရောက် အိမ်ခေါင်။

၃၉။ လူမလေး၊ ခွေးမခံ့။

၄၀။ လူမလိုက နတ်မလို။

၄၁။ လူမသေ ငွေမရှား။

၄၂။ လူမင်းဘုန်းကြီး နတ်မင်းမနေနိုင်။

၄၃။ လူမိုက် ကံကောင်း။

၄၄။ လူမိုက်စေ ရန်တွေ့၊ အမိုက်မွှေ မြွေတွေ့။

၄၅။ လူမိုက်နောက်မှ အကြံရ။

၄၆။ လူမိုက်နှင့်ငွေ အတူမနေ။

၄၇။ လူမိုက်သား ရမ်းကား။

၄၈။ လူများ၍ ပွဲမစည်။

၄၉။ လူမျိုးလျှင် ဒဏ်ရ၊ နွားမျိုးလျှင် ထွန်ရ။

၅၀။ လူမှာအချစ်၊ ကြက်မှာအမြစ်။

၅၁။ လူမှာအမျိုး၊ ကြက်မှာအရိုး။

၅၂။ လူမှာအဝတ်၊ တောင်းမှာအကွပ်။

၅၃။ လူရဟန်းကျင့် ကျင့်သော် စီးပွားလစ်သည်။

၅၄။ လူရဲမရဲကို ပွဲဝင်မှသိ။

၅၅။ လူရှိသေရှုံ ရှုံးတက်။

၅၆။ လူရိုး သူခိုးထင်။

၅၇။ လူရိုး သင်းချိုင်းမှာရှိ။

၅၈။ လူရည်ရှိမှ လူချင်းမျှ။

၅၉။ လူလိမ္မာသား ယဉ်ပါး။

၆၀။ လူလိုမှနတ်လို၊ နတ်လိုမှဗြဟ်မ။

၆၁။ လူလှ ပွေးခ။

၆၂။ လူလှ မီးခ။

၆၃။ လူဝိုးဝါးတော့မွတ်၊ မိုးဝိုးဝါးတော့စွတ်။

၆၄။ လူသရော ဘေးဒဏ်ထိ။

၆၅။ လူသူငယ်ကျီစား၊ သျှောင်ဖျားတက်။

၆၆။ လူအ အိပ်မက်ကောင်းမက်။

၆၇။ လူ့အလို နတ်မလိုက်နိုင်။

၆၈။ လူ့အလိုက်၊ စရိုက်ညီထွေ၊ ကျင့်တတ်စေ။

၆၉။ လေကိုထောက်၊ လှေနောက်ပါ။
၇၀။ လေစုန်၍ ရွက်တိုက်။
၇၁။ လေပြင်းသည့်ကုတို့ဆိပ်၊ မှို့အိပ်လှင့်။
၇၂။ လေဖမ်း ဝါးတန်းချည်။
၇၃။ လေမလာ ကြာတိုင်းကောင်း၊ လှေသူကြီးကို လှေသားရှောင်း။
၇၄။ လေလာသဲရာလျှင် အရဲမဝင်နှင့်၊ ရောကဲလျှင် ခန့်မဆင်နှင့်။
၇၅။ လေးမတတ်သော်လည်း၊ နံ့စုတ်ငှက်ကိုမှန်သေး။
၇၆။ လေးအတတ် ကျွမ်းလည်း၊ ဗန်းကိုလွဲသည်။
၇၇။ လဲရာ သူခိုးထောင်း။
၇၈။ လောက္ခတ်ချော်၍ ရွာဆော်နှုတ်ဆက်၊ ထမင်းချက်တွေ့။
၇၉။ လောဘကြီး စကားပို၊ ဒေါသကြီး စကားတို။
၈၀။ လောဘကြီးလျှင်ချို၊ ဒေါသကြီးလျှင်ဆဲ။
၈၁။ လိုချင်လောက်မှ၊ လူကောက်သည်။
၈၂။ လိုတ ရ။
၈၃။ လိုလျှင်ကြံဆ နည်းလမ်းရ။
၈၄။ လိုလျှင်ရစေ၊ ကြိုးနှယ်ခွေ။
၈၅။ လိုသော်မရ၊ မလိုသော်ရ။
၈၆။ လက္ခဏာမသဲ၊ လူနာဘဲ။
၈၇။ လက္ခဏာရှိ၊ ဥစ္စာမရှိ။
၈၈။ လက်ခုပ်တွင်းကရေ၊ သွန်လိုသွန်၊ မှောက်လိုမှောက်။
၈၉။ လက်ဆောင်ပါး၊ မစားလဲနွား၊ စားလဲနွား။
၉၀။ လက်ဆောင်မပါ၊ လက်ဆယ်ဖြာ ပဏာပြု။
၉၁။ လက်တို ငါးရှိုးမျှက်။
၉၂။ လက်နှင့်ရေး၊ ခြေနှင့်ဖျက်။
၉၃။ လက်ပါးနီး၊ မြီးထူး မခံနိုင်။
၉၄။ လက်ပံပင် ကြီးလည်း အနှစ်မရှိ။
၉၅။ လက်ဖက်တောင်ကို တက်ဘူးသော်လည်း၊ ငှက်သင့်၍သေ။
၉၆။ လက်ဖက်နှင့်မဲဇလီ၊ ကတ္တီပါနှင့်လျှော်တေ။
၉၇။ လက်ရေ တပြင်စီး။
၉၈။ လက်သင့်ရာ စားတော်ခေါ်။
၉၉။ လက်သည်းစင်၊ ဒန်းပင်လည်းရှင်။

၁၀၀။ လက်သည်းဆိတ်၊ လက်ထိပ်နာ။
၁၀၁။ လက်ဝါးကြီးကြီး၊ အုန်းသီးတင်၍ပြ။
၁၀၂။ လက်ဝါးလို မကျင့်နှင့်၊ ဖဝါးလိုကျင့်။
၁၀၃။ လက်ဦးဆရာ၊ မည်ထိုက်စွာ၊ ပုဗ္ဗာစရိယ၊ မိနှင့်ဖ။
၁၀၄။ လင်ကောင်းမယား လင်ဆီစား၊ ဝက်သားတတစ် ငါးတတစ်။
၁၀၅။ လင်ကောင်းအိမ်ရှင်၊ တရွှင်ရွှင်။
၁၀၆။ လင်ကွာတသသ၊ လင်သေတသသ။
၁၀၇။ လင်စံရွှေး၊ လင်ခွေးနှင့်ညား။
၁၀၈။ လင်ဆိုးမယား တဖားဖား။
၁၀၉။ လင်နေစ၊ ဆင်သေမှ။
၁၁၀။ လင်နှင့်မယား၊ လျှာနှင့်သွား။
၁၁၁။ လင်မယားကြား၊ စကားမဝင်သာ။
၁၁၂။ လင်လိုတုန်း နားပွဲ။
၁၁၃။ လင်းတနောက်ကျ၊ အရိုးရ။
၁၁၄။ လင်းတလောက်တော့ ငှက်တိုင်းလှ။
၁၁၅။ လင်းတဝဲ၊ မလွဲကေန္တ။
၁၁၆။ လည်ဖန်များသည့်လှည်းဘီး၊ ချေးသင့်။
၁၁၇။ လမ်းဆုံး ရွာတွေ့။
၁၁၈။ လမ်းနား ကျောက်ပုံ။
၁၁၉။ လမ်းမသိ ခွေးနောက်လိုက်။
၁၂၀။ လယ်ကစပါး ကျီသွင်းမှ။
၁၂၁။ လယ်ထွန်တော့နွား၊ ဆန်စားတော့ လယ်ရှင်။
၁၂၂။ လယ်ထွန်သွား နွားမေ့။
၁၂၃။ လယ်ပြင်ဆင်သွား၊ ထင်ရှားသည်။
၁၂၄။ လယ်ပြင်ပါး၊ ဝါးခုတ်မရ။
၁၂၅။ လယ်လွန်းက ရှုံး၊ ထယ်လွန်းကမုန်း။
၁၂၆။ လိပ်ကို ကျီးဆိတ်မရ။
၁၂၇။ လိပ်ကျောကြောင်ကော်၊ ပြောင်ချော်ချော်။
၁၂၈။ လိပ် ရေထဲလွှတ်သလို။
၁၂၉။ လိပ်သွားရာ၊ တုတ်ထိုးမှ၊ ခေါင်းလျှိုး၍ရပ်။
၁၃၀။ လိမ္မာချင်၊ စာသင်။

၁၃၁။ လိမ္မာချင်သည့်ခွေး အမွေးတခြား။
၁၃၂။ လိမ္မာရေး၊ ရွှေကျေးစကားတတ်။
၁၃၃။ လုပ်စရာရှိ ငါ့သား၊ စားစရာရှိငါ့မယား။
၁၃၄။ လုပ်စားမိုးခေါင်၊ ခိုးစားခွေးဟောင်။
၁၃၅။ လုပ်လှည့်ခေါ် ၊ ငုံ့မြော်တုံ့တီ၊ စားလှည့်ခေါ် အော်အော်ပြေးချီ။
၁၃၆။ လုံသာကွဲ၊ ငဖဲရွှေမဖြစ်။
၁၃၇။ လျှော့၍ပေါင်း၊ မိတ်ကောင်းရ။
၁၃၈။ လျှော့လျှင်မိစ္ဆာ၊ သာလျှင်ဒိဋ္ဌိ။
၁၃၉။ လှချင်လျက်၊ စက်စက်ယို။
၁၄၀။ လှစေလိုလို့ သွားကြောင်တိုက်၊ ရေစီးကမ်းပြိုလိုက်။
၁၄၁။ လှတမျက်နှာ၊ ယဉ်တကိုယ်လုံး။
၁၄၂။ လှေကိုလည်းစီး၊ သမီးလည်းနေ။
၁၄၃။ လှေကြီးပေါ် တွင် လှေငယ်တင်၊ ပဲ့စင်ကလှုပ်၊ လှိုင်းကပုတ်။
၁၄၄။ လှေကွဲစီးရာ လှိုင်းကြီးလာ။
၁၄၅။ လှေခပ် လှေလှော် ကောင်းသော်လည်း ရေကြောင်းသိမှ။
၁၄၆။ လှေခွက်ချည်းဆန်မည်၊ အလံမလှည့်ဘူး။
၁၄၇။ လှေငယ်မလှော်လောက်၊ မြောင်းငယ် မကျော်လောက်။
၁၄၈။ လှေငယ်လောက်လက်၊ အကူးခက်။
၁၄၉။ လှေပြေးယင်းတက်ကျိုး။
၁၅၀။ လှေနံ့ခါးထစ်။
၁၅၁။ လှေမူခိုင်းလျက်၊ ဒီပိုးဖျက်။
၁၅၂။ လှေသွားကောင်းလျက်၊ အပဲ့ဖျက်။
၁၅၃။ လှေအဆင်း မြင်းအတက်။
၁၅၄။ လှေအဆင်း မြင်းအတက်။
၁၅၅။ လှော်ကားထက် နှဲမရှည်ချင်နှင့်။
၁၅၆။ လှော်ကားဝန်တင်၊ ကရင်စလွယ်သိုင်း။
၁၅၇။ လှံထမ်းလာသည်သာမြင်ရ၊ ကံထမ်းလာသည်မမြင်ရ။
၁၅၈။ လှံဖျားပုစဉ်းနား၊ ကျီးကန်းချေးပါ။
၁၅၉။ လှိုင်းကြီးငြား၊ ကမ်းပါးရောက်။
၁၆၀။ လှိုင်းကြီးလှေအောက်၊ တောင်ကြီး ဖဝါးအောက်။
၁၆၁။ လွတ်သည့်ငါး ကြီး။

၁၆၂။ လွန်ကျူးမိ နောင်တ၊ ကျွန်ထူးရှိ ခေါင်က။
၁၆၃။ လွန်လွန်းသနော်၊ မန်းရွှေစက်တော်။
၁၆၄။ လွယ်ရောင်နှင့်ခက်၊ တိမ်ရောင်နှင့်နက်။
၁၆၅။ လွယ်လျှင် သူကြွယ်ပင် မရှောင်။

(ဝ)

၁။ ဝချင်ကာမှ ပိန်။
၂။ ဝမရှိဘဲ ဝိမလုပ်နှင့်။
၃။ ဝါကျွတ်ကာနီး၊ တော်သလင်းကန့်လန့်။
၄။ ဝါဂွမ်းတလှည်းမီးဖုတ်၊ တဆုပ်မရ။
၅။ ဝါဂွမ်းလိုနုစေ၊ ဆီလိုဥစေ။
၆။ ဝါစေလို၊ အိုစေမှ။
၇။ ဝါဆိုဝါခေါင် ရေဖေါင်ဖေါင်။
၈။ ဝါသနာဘာဂီ၊ ဆက်တိုင်းမှီ။
၉။ ဝါးစေ့ ဆိတ်ဝါး။
၁၀။ ဝါးဆွေး ချွန်၍မထက်။
၁၁။ ဝါးတချိုးလုံး၊ ဘုန်းကြီးတောင်ဝှေး။
၁၂။ ဝါးနားပင်း၊ ရေသွင်းမဝင်။
၁၃။ ဝါးလုံးခေါင်းထဲ လသာ။
၁၄။ ဝါးလုံးချေးသုတ်၊ ဘီးလုံးရှုပ်။
၁၅။ ဝိနည်းတတ်၊ ကြက်သတ်။
၁၆။ ဝိပါက်အမြဲ၊ ငရဲအပ။
၁၇။ ဝီရိယလွန်သော် ဥဒ္ဓစ္စ။
၁၈။ ဝက်ခြေရာမှာ၊ ခွေးခြေရာဆုံ။
၁၉။ ဝက်ဖြစ်မှ ချေးမကြောက်နှင့်။
၂၀။ ဝက်မရောက် အိမ်မိုးခေါင်။
၂၁။ ဝက်လည်ချွဲ သဲနှင့်ရှပ်ရှပ်။
၂၂။ ဝင်တော့စည်တီး၊ ထွက်တော့ခေါင်းမြီးခြုံ။
၂၃။ ဝင်ပေါက်လွယ်၊ ထွက်ပေါက်ခက်။
၂၄။ ဝင်ရိုးမတတ်သည့်ရထား၊ အသွားခက်။

၂၅။ ဝင်လျှင်ဝင်ချင်း၊ ဆောက်နှင့်ထွင်း။
၂၆။ ဝင့်အမြဲ၊ ငရဲအပ။
၂၇။ ဝတ်ဖြူနှင့်ခေါင်းတုံး။
၂၈။ ဝန်နှင့်အား၊ မြားနှင့်လေး။
၂၉။ ဝမ်းဆွဲမလိမ္မာ၊ ဓမ္မတာအပြစ်ဆို။
၃၀။ ဝမ်းတလုံးကောင်း၊ ခေါင်းမခဲ။
၃၁။ ဝမ်းတွင်းမှာမြား၊ ရှာမှာပျား။
၃၂။ ဝမ်းနှင့်မလွယ်၊ သားမမယ်။
၃၃။ ဝမ်းပဲဟင်းသာ၊ ချောင်းကိုပစ်လို့ မြစ်မှာရှာ၊ ရေသာများ၍၊ ငါးမတွေ့။
၃၄။ ဝမ်းရေးထက်၊ လွမ်းရေးခက်။
၃၅။ ဝမ်းရေးဝမှ ဆွမ်းရေးလှ။
၃၆။ ဝေ့ချင်တဲ့နွား၊ ဝေ့ဘက်ရှာ။

## (သ)

၁။ သကာနှင့်ပျား၊ တမာနှင့်အခါး။
၂။ သကာ အချိုလောင်း။
၃။ သကြားမင်း ကျွဲယောင်ဆောင်လည်း၊ အမြီးတို ချိုစောင်းသည်။
၄။ သကြားမင်းသံကွင်း၊ သီတင်းသုံးဖျက်။
၅။ သခင်မြင့် ကျွန်တင့်။
၆။ သခင်လည်းယစ်၊ ကျွန်လည်းယစ်။
၇။ သခင်အားရ၊ ကျွန်ဒဏ်ဝ။
၈။ သခင့်အာဏာ ကျွန်မှာတည်စေ။
၉။ သခွါးသီးမှ အရီးတော်ချင်။
၁၀။ သခွပ်ပင်က မီးတကျည်ကျည်။
၁၁။ သခွပ်ပွင့် တပြည်ပြုတ်၊ တဆုပ်မရ။
၁၂။ သတိကင်းကွာ၊ ကြံရာမမြောက်။
၁၃။ သတိတမန်၊ ဉာဏ်မြေကတုတ်။
၁၄။ သတိပိုသည်မရှိ၊ လိုသည်။
၁၅။ သတိမမူ ဂူမမြင်၊ သတိမူက မြူမြင်။
၁၆။ သတိလက်ျာ၊ ပညာလက်ဝဲ။

၁၇။ သတိလက်လွှတ်၊ ငှက်တောင်ကျွတ်။
၁၈။ သတိအပင်၊ ဉာဏ်အစဉ်။
၁၉။ သတိအလေးမူ၊ ကတိအရေးယူ။
၂၀။ သနားလျှင် ပါးရှားသည်။
၂၁။ သနားသည်းခံ၊ မသနား ထီးရံ။
၂၂။ သပြေပြပ်နှးတခက်နှစ်ခက်၊ မသွေတမ်း တသက်နှစ်သက်။
၂၃။ သမဏေဏ သမဏော၊ ဂေါဏေန ဂေါဏော။
၂၄။ သမာဓိလွန် တုံးဖြစ်။
၂၅။ သမာဓိလွန်လျှင်ကြောက်၊ ဝီရိယလွန်လျှင်မြောက်။
၂၆။ သမားမထောင်းတာ၊ လူနာမခံချိ။
၂၇။ သမားမျှား သားသေ။
၂၈။ သမားအိုစေ၊ မယားပျိုစေ။
၂၉။ သမီးကညာ အခါမလင့်စေနှင့်။
၃၀။ သမီးတကောင်၊ နွားတထောင်။
၃၁။ သမီးပေး၊ သားမက်ရ။
၃၂။ သမီးမလိမ္မာ၊ မိခင်တာ။
၃၃။ သမီးရည်းစား အချစ်ကုန်၊ လင်မယား အရှက်ကုန်။
၃၄။ သမီးလင်နေ၊ အမေပေါင်ကျိန်း။
၃၅။ သမီးအချစ်၊ မြေးအနှစ်။
၃၆။ သမင်မွေးယင်း၊ ကျားစားယင်း။
၃၇။ သမုဒ္ဒရာရေ၊ တယောက်တည်း သောက်မကုန်။
၃၈။ သမုဒ္ဒရာ ဝမ်းတထွာ။
၃၉။ သမုဒ္ဒရာအလယ်မှာ အလောင်းပင်တွယ်ရသည်။
၄၀။ သားကောင်းတယောက်၊ ကျောက်ကောင်းတစေ့။
၄၁။ သားဆိုးအမေ၊ တပေပေ။
၄၂။ သားတို့မည်သည်၊ မိဘနှလုံးရည်။
၄၃။ သားနှောင်း ကျွန်ရာ။
၄၄။ သားမရှိသေက ကျွန်မရှိသေ။
၄၅။ သားရေဆောင် ခွေးပေါင်ကိုက်။
၄၆။ သားရေပေါ် အိပ်၊ သားရေနားစား။
၄၇။ သားရေသံနှင့်လေသံတခြားစီ။

၄၈။ သားသမီးမကောင်း မိဘခေါင်း။
၄၉။ သားသေလင်ဆုံး၊ ကုန်ရှုံးကြွေးတင်၊ လိုလင်မရ၊ မယ်သီလ။
၅၀။ သားသေ လှေမှောက်။
၅၁။ သားဦး၊ ရှူး။
၅၂။ သိချင်မေး၊ စင်ချင်ဆေး။
၅၃။ သိတိုင်းလည်း မဟနှင့်၊ ရှိတိုင်းလည်း မပြနှင့်။
၅၄။ သိသာသိစေ၊ မမြင်စေနှင့်။
၅၅။ သီလနှင့်ဒါနမပါ သေခါမှသိ။
၅၆။ သီလရှိ၏၊ ဒါန ခေါင်းပါးသည်။
၅၇။ သီးချိန်တန်သီး၊ ပွင့်ချိန်တန်ပွင့်။
၅၈။ သူ့ကိုကိုယ်မခင်၊ ကိုယ့်ကိုသူမခင်။
၅၉။ သူကောင်းသား၊ မူထားကောင်းလျက်၊ အပေါင်းဖျက်။
၆၀။ သူကြီးဘုရား၊ ရွာသားကောင်းမှု။
၆၁။ သူခိုးက လူလူဟစ်။
၆၂။ သူခိုးကို တိုက်စိုးနှင်း။
၆၃။ သူခိုး ဓားရိုးကမ်း။
၆၄။ သူခိုးပြေးမှ ထိုးကွင်းထ။
၆၅။ သူခိုးရွှေရ တပြုံပြုံ။
၆၆။ သူခိုးလက် သူဝှက်မှောက်။
၆၇။ သူခိုးသေဘော်ညှိ။
၆၈။ သူစိမ်းကောင်း ဆွေမျိုးမသာ။
၆၉။ သူတော်ကောင်း နတ်ကောင်းမ။
၇၀။ သူတော်ချင်းချင်း၊ သတင်းလွှေလွှေ ပေါင်းဖက်တွေ့။
၇၁။ သူတောင်းစား ထမင်းဝလျှင် ရောင့်တက်။
၇၂။ သူများကိုမလိမ်ရ၊ ကိုယ့်ပေါင်ကိုယ်လိမ်။
၇၃။ သူများစပါးသီး၊ ကိုယ့်သမီးချော။
၇၄။ သူများနှာခေါင်းပေါက်နှင့် အသက်ရှူ။
၇၅။ သူများပူဆို တော်သလင်းရှိသေး။
၇၆။ သူများပြောတလ၊ မယားပြော တည။
၇၇။ သူများယောင်လို့ ယောင်ရသည်၊ အမောင်တောင်မြောက်မသိ။
၇၈။ သူများလှည်းကျိုး၊ ကိုယ်မထမ်း။

၇၉။ သူများသေတော့ စားလားသောက်လား၊ အိမ်သားသေမှ မသာမှန်းသိ။
၈၀။ သူများအကျိုးဆောင်၊ အိုးအောင်မဆင်းရဲ။
၈၁။ သူများအတွက်၊ ဝက်ကျမ်းစူး။
၈၂။ သူလည်းမနာလို၊ ကိုယ်လည်းအကျိုးမရှိ။
၈၃။ သူသိတာ ငါအိပ်နေသလောက်။
၈၄။ သူသေငါပို့၊ ငါသေသူပို့။
၈၅။ သူ့ကလေးချစ် မို့ကုန်သည်။
၈၆။ သူ့ကိုငါဖျက်၊ ငါလျှင်ပျက်။
၈၇။ သူ့ကိုကျွေး၊ ချစ်ဆေး။
၈၈။ သူ့ချေးယံ၊ ဝက်မွေး။
၈၉။ သူ့စကားနှင့်သ၊ ငါ့စကားနှင့်ငါ။
၉၀။ သူ့စိတ်လို ကိုယ်စိတ်နှင့်နှိုင်း။
၉၁။ သူ့ဆန်စား ရဲမှ။
၉၂။ သူ့ပစ္စည်းလို၊ သူ့ကိုရှိသေ။
၉၃။ သူ့မယားချစ် ကွမ်းကုန်။
၉၄။ သူ့မေတ္တာရှိမှ၊ ကိုယ့်မေတ္တာရှိ။
၉၅။ သူ့လူ ငါ့ဘက်သား။
၉၆။ သူ့လက်လာမှ ကိုယ့်လက်သွား။
၉၇။ သူ့သမီးလိုချင်၊ သူ့အမေ ဖျာလိုလိပ်၊ ထိပ်ပေါ်တင်။
၉၈။ သူ့အကျိုးဆောင်၊ ကိုယ့်အကျိုးအောင်။
၉၉။ သူ့အိုးနှင့်သူ့ဆန် တန်ရုံ။
၁၀၀။ သူ့အိမ်တက်၊ သမက်သဖွယ်၊ တအားငယ်။
၁၀၁။ သူ့အိုင်ငါးပက်၊ သူ့အတွက် တအိုးစား။
၁၀၂။ သေကံမရောက်၊ သက်မပျောက်။
၁၀၃။ သေခါနီးရောက်မှ ဆေးသောက်။
၁၀၄။ သေချာမှ ရေရာ။
၁၀၅။ သေချင်တဲ့ကျား တောပြောင်း။
၁၀၆။ သေငွေး ကြေးပုံ့သည်။
၁၀၇။ သေငွေး သင်္ဘောမှောက်ရာ ဆန်ဆေးတောင်းနှင့်ယက်။
၁၀၈။ သေငွေးစည်းစိမ်နှင့်အိမ်ပြည့်ဝမာန်တက်။
၁၀၉။ သေတနေ့ မွေးတနေ့။

၁၁၀။ သေမည့်ဘေး ပြေးမလွတ်။
၁၁၁။ သေမြေကြီး၊ ရှင်ရွှေထီး။
၁၁၂။ သေလျှင်မပုပ်စေနှင့်၊ ရှင်လျှင်မယုတ်စေနှင့်။
၁၁၃။ သေသူပေးက ရှင်သူရ။
၁၁၄။ သေသောသူ ကြာလျှင်မေ့၊ ပျောက်သောသူ ရှာလျှင်တွေ့။
၁၁၅။ သေအတူ၊ ရှင်မခွဲ။
၁၁၆။ သေးလွန်းလျှင် မလှ၊ ရွေးလွန်းလျှင် မရ။
၁၁၇။ သဲထဲရေသွန်၊ ဘာမကျန်။
၁၁၈။ သဲလွန်းလျှင် လွဲလွန်းသည်။
၁၁၉။ သံကိုကြွက်စား၊ သားကိုစွန်ချီ။
၁၂၀။ သံကိုသံဖျက်၊ သံချေးတက်။
၁၂၁။ သံဃာဖက်တော့ အခက်ပေ။
၁၂၂။ သံဃာအား၊ ဘုရားမဆန်သာ။
၁၂၃။ သံတွေခဲ အမဲမှတ်။
၁၂၄။ သိုးသား သိုးကရ၊ ချိုးသား ချိုးကရ။
၁၂၅။ သက်ကြီးစကား၊ သက်ငယ်ကြား။
၁၂၆။ သက်လုံကောင်းစေ၊ ဉာဏ်ကောင်းစေ။
၁၂၇။ သက်သေကြီးလည်း၊ မထီးစေရာ။
၁၂၈။ သက်သေငါး၊ တရားမအောင်ရာ။
၁၂၉။ သက်သေမရှိ၊ တရားမဝင်။
၁၃၀။ သက်န်းကြီး မီးလောင်ပြတ်မှ နှစ်ထပ်မှန်းသိ။
၁၃၁။ သင်ပုတ်မတင်ခင်၊ သူတောင်းစားအလျှင်။
၁၃၂။ သင်္ဘောမှောက်ရာ၊ ဆန်ဆေးတောင်းဆယ်။
၁၃၃။ သင်သာသင်၊ အမြင်မရှိ။
၁၃၄။ သစ်ကိုနိုင်လို နဖါး၊ နွားကိုနိုင်လို နှာကွင်း။
၁၃၅။ သစ်ကောင်း တပင်ကြောင့် တောတခွင်ကြိုင်။
၁၃၆။ သစ်ငုတ်တိုပင်၊ တိုက်ဖန်များသော် ပွဲ၍။
၁၃၇။ သစ်ငုတ်မြင့်တုံ၊ မြက်မြင့်တုံ။
၁၃၈။ သစ်တပင်ကောင်း၊ ငှက်တသောင်းခိုရ။
၁၃၉။ သစ်နင်းသစ်ကျိုး၊ ဝါးနင်းဝါးကျိုး။
၁၄၀။ သစ်နှစ်ဖက်ကြား၊ ပေါက်သည့်ဝါး၊ အဖျားသွယ်။

၁၄၁။ သစ်နှစ်ဖက်ကြားဝါးညှပ်။
၁၄၂။ သစ်ပင်ထီးလျှင်လေညှဉ်း၊ လူထီးလျှင်ရန်ညှဉ်း။
၁၄၃။ သစ်ပင်အောက်ကြို့သော်သေ၊ လူအောက်ကြို့သော်မသေ။
၁၄၄။ သစ်မရှား ကျောင်းဆောက်။
၁၄၅။ သစ်မရှိခင်စပ်ကြား၊ ဝါးပေါင်းကွပ်။
၁၄၆။ သစ်ရိပ်သာမှ လူလာသည်။
၁၄၇။ သည်ပုတ်ထဲက သည်ပဲထွက်။
၁၄၈။ သည်ယုန်မြင်၍ သည်ချုံထွင်။
၁၄၉။ သည်းညည်းခံ၊ နိဗ္ဗာန်ရောက်။
၁၅၀။ သတ္တဝါ ကံဆောင်။
၁၅၁။ သတ္တဝါတခု၊ ကံတခု။
၁၅၂။ သတ္တဝါနှင့်လက်နက်မမျှ။
၁၅၃။ သတ္တဝါအလိုက်၊ စရိုက်ထွေထွေ။
၁၅၄။ သဒ္ဓါလွန်သော်၊ တဏှာကျွန်။
၁၅၅။ သဒ္ဓါလွန်သော် ရာဂ။
၁၅၆။ သဒ္ဓါလွန်း၊ ဆွမ်းတော်ရှိရပ်။
၁၅၇။ သန္ဓေပြည့်လျက်၊ ဆေးကုခက်။
၁၅၈။ သန်းခေါင်ထက် ညဥ့်တိုးမနက်။
၁၅၉။ သံပုရာသီး၊ ကြီးလေချဉ်လေ။
၁၆၀။ သယ်ပါများ၊ ခြပင် တောင်ပို့ဖြစ်။
၁၆၁။ သိန်းတန်သည့်ရွှေခွက်၊ မြေခွေးသေးနှင့်ပက်။
၁၆၂။ သိန်းမြင် ထောင်စွန့်။
၁၆၃။ သုတ်သုံးကျမ်း၊ ကျွမ်းအောင်ကျင့်။
၁၆၄။ သုံးကျောင်းပြောင်းသောရှင်၊ သုံးလင်ပြောင်းသောမယား။
၁၆၅။ သုံးစလောင်းကုန်၍ ပြောင်းဂျုံမှန်းမသိ။
၁၆၆။ သုံးဆယ့်ခုနစ်မင်း၊ ပန်းမကိုင်ဘဲသွင်း။
၁၆၇။ သုံးတိုးကုန်မှ မစင်မှန်းသိ။
၁၆၈။ သုံးထမ်းပိုးကျမှ အရွှသင်။
၁၆၉။ သုံးပျောက်လို့ငါးကွာ ခြောက်ရွာနှင့်လွဲ။
၁၇၀။ သုံးယောက်ပေါင်း လောင်းကျော်။
၁၇၁။ သုံးရွာပေါင်း၊ သုံးစလောင်းမျှမကျန်။

၁၇၂။ သုံးအိုးမတည်ဘဲ၊ သုံးစလယ်ကုန်မည်။
၁၇၃။ သောက်မည့်ဆေးတံ၊ ကြောင်ကန်။
၁၇၄။ သောင်ပြင်ဆင်သွားက၊ ထင်ရှားသည်။
၁၇၅။ သောင်ပြင်လွှတ်သည့်ခွေး၊ ပြေးပေါက်မတွေ့။
၁၇၆။ သိုက်စာဖတ်ရာ၊ နားထောင်ပါ၊ ဥစ္စာရနိုးနိုး။
၁၇၇။ သိုက်လည်းမပျက်၊ ဥလည်းမကွဲ။
၁၇၈။ သွားကြားရိုးညပ်၊ မျက်စပ်ပိုးဝင်။
၁၇၉။ သွားတတိုင်၊ ထိုင်ခဏ။
၁၈၀။ သွားတမန်၊ ပြန်ရှေ့နေ။
၁၈၁။ သွားဖန်များ ခရီးရောက်။
၁၈၂။ သွားယင်းဟန်လွှဲ။
၁၈၃။ သွားလေရော့ငှက်ခါး၊ နားကာမှသိ။
၁၈၄။ သွေးနီးရာ အရေးကြီးသည်။
၁၈၅။ သွေးမညီ ဆီနှင့်ညှိ။
၁၈၆။ သွေးသားမတူ၊ စိတ်မဖြူ။
၁၈၇။ သွင်းတာကမဝင်၊ မသွင်းတာကဝင်။
၁၈၈။ သွယ်တတ်မှစီး၊ ရှယ်တတ်မှနီး။

## (ဟ)

၁။ ဟော့လျှင်သွမ်း၊ ဆော့လျှင်ဆန်း။
၂။ ဟံသာဝတီနှင့်ဇင်းမယ် ပုစ္ဆာသွယ်။
၃။ ဟင်ဆို လှည့်မကြည့်ချင်။
၄။ ဟင်းချိုမမြိုးရခင် နှုတ်သီးစေး။
၅။ ဟင်းစားကြွက်မှ အတက်ကောင်းပေါက်။
၆။ ဟင်းတခွက်ထဲ၊ တဖက်ချဉ်၊ တဖက်ချို။
၇။ ဟင်းရေပက်၊ ဟင်းခွက်စင်။
၈။ ဟင်းလေးကျိုလျှင်၊ ဘာမဆိုထည့်။
၉။ ဟုတ်တိုင်းမပြောနှင့်၊ ပြောတိုင်းဟုတ်စေ။
၁၀။ ဟုတ်မှကျော်၊ ပုပ်မှပေါ်။
၁၁။ ဟောင်လွန်းသည့်ခွေး၊ လူမလေး။
၁၂။ ဟောင်းပင် ဟောင်းလည်း၊ ကောင်းချင်မှ ကောင်းသည်။

၁၃။ ဟောင်းပင် ဟောင်းသော်လည်း၊ မကောင်းလျှင် ပယ်။
၁၄။ ဟိုင်းလည်းဆင်၊ ဆင်လည်းဟိုင်း။

## (အ)

၁။ အကန်း တစ္ဆေမကြောက်။
၂။ အကောင်မြင်လျက် အရိပ်ရှာ။
၃။ အကျီစားသန် ရန်ဖြစ်။
၄။ အကျယ်အကျယ် မငြိမ်းဘွယ်။
၅။ အကျော်အစောရှိ၏၊ မမြဲ။
၆။ အကျိုးမရှိမကယ်နှင့် အတိုးမရှိမလှယ်နှင့်။
၇။ အကျိုးရှိ၏ အပြစ်မဖော်။
၈။ အကျိုးရှိ၊ မျက်စိ သံဖေါက်ခံ။
၉။ အကျိုးလို၍ ညောင်ရေလောင်း၊ ပတ်ထမ်းတွေ့။
၁၀။ အကျင့်ကောင်းမှ သီလမြဲ၏။
၁၁။ အကျင့်ယုတ်မာ၊ ဖခင်တာ။
၁၂။ အကျစ်အလစ်ရှိမှ၊ ဥစ္စာတည်သည်။
၁၃။ အကျစ်အလစ်ရှိမှ၊ ထိန်းသိမ်းတတ်သည်။
၁၄။ အကျဉ်းအကြပ်တွေ့မှ၊ အစွမ်းအစပေါ် သည်။
၁၅။ အကျောက်လည်းခံရ၊ အနာလည်းဒဏ်ဝ။
၁၆။ အကြီးအအုပ်မှန်၏၊ မရှိသေ။
၁၇။ အကြီးအကဲရှိမှ၊ အရှီးအစဉ်မှန်သည်။
၁၈။ အကြံကောင်းတချက်၊ အနေကောင်းတသက်။
၁၉။ အကြံကောင်း၊ အနှောင်းကျ။
၂၀။ အကြံကုန်၊ ဂဠုန်စာကျက်။
၂၁။ အကြံကြီးလွန်းက၊ ပျက်စီးတတ်သည်။
၂၂။ အကြံတူ၊ နောက်လူကောင်းစမြဲ။
၂၃။ အကြံတူ၊ ရန်သူ။
၂၄။ အကြည့်တတ်မှ၊ အမြတ်ရ။
၂၅။ အကြည့်တန်၊ စကားတန်ထွက်။
၂၆။ အကြည့်တန်၊ မှန်ကြိုက်။
၂၇။ အကြမ်းမှု၊ အနုနှင့်သာ အောင်ရာသည်။

၂၈။ အကြိတ်အခဲ၊ အမြဲမတည်။
၂၉။ အကြောက်ရှိမှ၊ အရှက်ရှိသည်။
၃၀။ အကြောက်လည်းမသန်၊ အကြံလည်းမလျော့။
၃၁။ အကြောင်းတော်၊ တောင်ပေါ်ရေစီး။
၃၂။ အကြောင်းတော်၊ ထန်းလျှော်ဖားဖြစ်။
၃၃။ အကြောင်းမသိက၊ ဟတ္ထိယုန်ထင်။
၃၄။ အကြောင်းသိချင်း၊ အခင်းနားလည်။
၃၅။ အကြောင်းသင့်၊ ထနောင်းပွင့်။
၃၆။ အကြိုက်လည်းရှိ၊ အကျိုးလည်းတွေ့။
၃၇။ အကွပ်မဲ့ကြမ်း၊ ပရမ်းပတာ။
၃၈။ အခအယမ်းမြဲမှ ချီးမြှင့်သည်။
၃၉။ အခါနှောင်းမှ အလာကောင်းသည်။
၄၀။ အခဲကြီးငယ် ချိန်ခွင်မှာသိ၊ အရဲကြီးငယ် စစ်ခွင်မှာသိ။
၄၁။ အခက်ထဲ အခဲကြုံ။
၄၂။ အခက်ပြန့်မှ အလိုရှိတိုင်းရ။
၄၃။ အခိုးမရှိ၊ မီးတောက်မထင်။
၄၄။ အခိုင်လှသော်လည်း အသီးလှမှ။
၄၅။ အချောကိုလည်း မမက်နှင့်၊ အပြောအဆိုလည်း မကလက်နှင့်။
၄၆။ အချောပြင်၊ ခေါပျဉ်ဖြစ်။
၄၇။ အချိုရှာသကာတွေ့၊ အပျိုရှာ ကညာတွေ့။
၄၈။ အချိုအခါး၊ လျှာဖျားမှသိ။
၄၉။ အချက်မသိတော့ သားမက် သူခိုးထင်။
၅၀။ အချစ်ကြီးက အမျက်ကြီး။
၅၁။ အချစ်တတ်က အကျိုးရှိ၊ အဆစ်တတ်က အဖိုးသိ။
၅၂။ အချစ်ရှာ အသာတွေ့၊ အပြစ်ရှာ အနာတွေ့။
၅၃။ အချစ်ဝင်က၊ အပြစ်မမြင်။
၅၄။ အချိန်တန်တော့၊ နွားပိန်ကန်မည်။
၅၅။ အချိန်တန်လျှင်၊ ကံလည်းသင့်၊ စန်းလည်းပွင့်။
၅၆။ အချိန်မသိ ကြွယ်နှင့်ညှိ။
၅၇။ အချိန်ရှိခိုက်၊ လှံ့လစိုက်။
၅၈။ အချိန်လွန်မှ၊ နောင်တရ။

၅၉။ အချုပ်သက်သေ၊ သဝေမခြားစေရ။
၆၀။ အခြင်းရှိ၍ အဆင်းမရှိ။
၆၁။ အခွင့်ပေး၏၊ ဆိုရေးဆိုစစ်ကို မသိ။
၆၂။ အခွင့်မမှန်၊ ရှေးကံဆိုးချ။
၆၃။ အခွင့်ရ၏၊ အထမြောက်အောင် မချန်။
၆၄။ အခြေသန်မှ၊ အရံပေါ်သည်။
၆၅။ အငိုလွှယ် အရှိုက်ခက်။
၆၆။ အငင်မတတ်လျှင် ပန်းလျက်နှင့်မရ။
၆၇။ အငိုက်ကိုဖမ်း၊ အကြိုက်ကိုနမ်း။
၆၈။ အငြင်းသန်၊ ရန်ဖြစ်။
၆၉။ အစကောင်းမှ အနှောင်းသေချာ။
၇၀။ အစတုန်းကတော့သျှောင်၊ ပိန္နဲပင်ထောင်မှ ခေါင်းပြောင်။
၇၁။ အစရှိ အနှောင်နှောင်။
၇၂။ အစားကြီးသော်၊ သူ့နောက်ကျ၏။
၇၃။ အစားလျှင်သော်၊ အလျှင်ရောက်၏။
၇၄။ အစားမတော်တလုပ်၊ အသွားမတော်တလှမ်း။
၇၅။ အစားမရှိ လယ်ထွန်သွား။
၇၆။ အစားလွန်သော် ဘေး။
၇၇။ အစားအသောက် မီးလိုတောက်၊ အလုပ်အကိုင်ခွေးလိုမှိုင်။
၇၈။ အစစ်ထက် အဖြစ်သဲ၏။
၇၉။ အစစ်အမေးတတ်၏၊ မမွှသတ်မကျွမ်း။
၈၀။ အစည်းမပြေမှ၊ အစသေသတ်မည်။
၈၁။ အစည်းအရုံးရှိမှ၊ အညီအညွတ်ဖြစ်။
၈၂။ အစိုက်အပျိုးကောင်း၏၊ မစည်ပင်။
၈၃။ အစွဲအလမ်းရှိမှ၊ တည်တန့်သည်။
၈၄။ အဆီစား၍ အသားမဖြစ်။
၈၅။ အဆီရှိမှ မီးတောက်သည်၊ အမှီရှိမှ ပြီးမြောက်သည်။
၈၆။ အဆေးမစင်က၊ မသွေးမရှင်။
၈၇။ အဆန်မရှိ၊ အသံသာရှိ။
၈၈။ အဆိုကောင်း၏၊ အလာနှောင်းသည်။
၈၉။ အဆိုမတတ် ဆဲသလို၊ အထိုင်မတတ် ဖြဲသလို။

၉၀။ အဆိုးအကောင်း၊ ရွှေ့ပြောင်းမှသိ။
၉၁။ အဆင်မတတ်လျှင် ဆန်းလျက်နှင့်မလှ။
၉၂။ အဆင်ယူသော်လည်း၊ ချည်တူမှဖြစ်။
၉၃။ အဆင်းထွန်း၊ အတက်ညွန်း။
၉၄။ အဆင်းရှုပ၊ အခြင်းမူလ။
၉၅။ အဆင်းရှိလည်း၊ အခြင်းမရှိ။
၉၆။ အဆစ်တတ်က အဖိုးသိ၊ အချစ်တတ်က အကျိုးရှိ။
၉၇။ အဆစ်မခိုင်လျှင် မဆွဲရာ၊ အသစ်မပိုင်လျှင် မတွဲရာ။
၉၈။ အဆန်းကြံလည်း၊ လမ်းမှန်မှ ထင်ရှားသည်။
၉၉။ အဆိပ်ပင် ရေလောင်း။
၁၀၀။ အညှီရှိ ယင်အုံ။
၁၀၁။ အတုမြင်၊ အတတ်သင်။
၁၀၂။ အတူတူနှင့် အနူနူ။
၁၀၃။ အတိုးမရှိမလှယ်ရာ၊ အကျိုးမရှိ မကယ်ရာ။
၁၀၄။ အတက်ရှိမှ အဆင်းရှိ။
၁၀၅။ အတင့်ရဲ၊ သားရဲဖြစ်။
၁၀၆။ အတတ်ကျူး၊ ဘီလူးဖြစ်။
၁၀၇။ အတတ်များလျှင် ပေါ့သည်။
၁၀၈။ အတောင့်မကြီး၊ အသီးမမာ။
၁၀၉။ အတိုင်းထက်အလွန်၊ တမ်းခွန်နှင့်ဘုရား။
၁၁၀။ အတွေးခေါင်၍၊ မျက်ခုံးမွေးပြောင်။
၁၁၁။ အတွင်းထရံ၊ အပြင်ကာ။
၁၁၂။ အထီးတောင်းသော် အမ၊ အမတောင်းသော် ပတ်လျှ။
၁၁၃။ အထီးလေ အမနောက်၊ အသီးကြွေ အပင်အောက်။
၁၁၄။ အထက်လွန်ကျစ် အောက်ခွေးစား။
၁၁၅။ အထစ်မတတ်စောင်း၊ အရစ်မတတ် ချောင်း။
၁၁၆။ အထည်များ၊ အယားအပြေ။
၁၁၇။ အထိန်းမရှိသည့်ချည်ခင် ရှုပ်။
၁၁၈။ အထိုင်မတတ် ဖြဲသလို၊ အပြောမတတ် ဆဲသလို။
၁၁၉။ အနာခံမှ အသာစံရ။
၁၂၀။ အနာပေါ် တုတ်ကျ။

၁၂၁။ အနာမသိ၊ ဆေးမရှိ။
၁၂၂။ အနာမဲ့ အနာရှာ။
၁၂၃။ အနာရှိက ဆေးရှိရ။
၁၂၄။ အနားကျယ်၊ အလယ်လွတ်။
၁၂၅။ အနီးမွှေးမှ၊ အဝေးကြိုင်။
၁၂၆။ အနုမာန၊ မျက်ရမ်းဆ။
၁၂၇။ အနေချောင် အသေကြပ်၊ အနေကြပ် အသေချောင်။
၁၂၈။ အနက်မထင်၊ အမြင်မရ။
၁၂၉။ အနွယ်ကိုလည်း မဖျက်နှင့်၊ အလွယ်ကိုလည်း မမက်နှင့်။
၁၃၀။ အနေးကြီးလျှင်လွဲ၊ အပြေးမြန်လျှင်လဲ။
၁၃၁။ အနှစ်မပါ၊ အကာပြဲ့ပြဲ။
၁၃၂။ အနှစ်မရှိသည့်တော၊ ကြက်ဆူပင် မင်းမူ။
၁၃၃။ အနှိပ်ပျင်း၊ အနင်းဖက်။
၁၃၄။ အနှိပ်မနှိပ်ရမီက အပူထုတ်ချင်။
၁၃၅။ အပူသဲလျှင်၊ မီးခဲမဖြုန်။
၁၃၆။ အပေးရှိမှ အဖော်ရ။
၁၃၇။ အပေါ်ရံက ပျား၊ အတွင်းခံက ခါး။
၁၃၈။ အပေါ်ရံ ပျားရည်ချွဲ၊ အထဲက သံကောက်စွဲ။
၁၃၉။ အပေါ်ရံရွှေမှုန့်ကြဲ၊ အထဲက နွားချေးခံ။
၁၄၀။ အပင်ကောင်း တရွက်၊ အပွင့်ကောင်း တခက်။
၁၄၁။ အပင်ကြီးလည်း၊ အသီးအပွင့်မရှိ။
၁၄၂။ အပင်ကြီးလျက် အသီးသေးသည့်ညောင်။
၁၄၃။ အပင်ကြီးလျက် အသီးမစားကောင်း။
၁၄၄။ အပတ်များလျှင် လျှော့။
၁၄၅။ အပျော်လွန်သော် ဇီဝိတ။
၁၄၆။ အပျိုချောတိုင်း မယူနှင့်၊ အဝိုပေါတိုင်း မပူနှင့်။
၁၄၇။ အပျက်အပျက်နှင့် နှာခေါင်းသွေးထွက်။
၁၄၈။ အပြောကြီးလျှင် အယုံခက်။
၁၄၉။ အပြောမတတ်ဆဲသလို၊ အထိုင်မတတ် ဖြဲသလို။
၁၅၀။ အပြောမတတ် ပါးစပ်၊ အဟောမတတ် စရပ်။
၁၅၁။ အပြစ်ပါလျှင်ဖုံး၊ အချစ်လာလျှင် ပြုံး။

၁၅၂။ အပြစ်လည်းပေး၊ အရေးလည်းယူ။
၁၅၃။ အပွေးမြင် အပင်သိ၊ အသွေးမြင် အသွင်သိ။
၁၅၄။ အပွဲပွဲနွှဲခဲ့၊ သည်ပွဲကျမှ၊ နှပ်ပစ်ခံရ။
၁၅၅။ အပွင့်ကား၊ အနံ့ပြယ်။
၁၅၆။ အပွင့်ကောင်းလျှင် တခက်၊ အပင်ကောင်းလျှင် တရွက်။
၁၅၇။ အဖထက် သားတလကြီး။
၁၅၈။ အဖမဲ့သား၊ နွားမှာသာလှသည်။
၁၅၉။ အဖအမျိုး၊ အဖိုးတူ။
၁၆၀။ အဖေါ်မကောင်း၊ အပေါင်းမတော်။
၁၆၁။ အဖတ်မတည်၊ အရည်မရ။
၁၆၂။ အဖိုးတန်၊ နာမည်မပျက်။
၁၆၃။ အဖိုးထက်၊ လက်ခကြီး။
၁၆၄။ အဖိုးနဲ၊ အိုးကွဲရ။
၁၆၅။ အဖိုးမသိက မဝယ်နှင့်၊ အမျိုးမရှိက မကျယ်နှင့်။
၁၆၆။ အဖိုးမသေ၊ မြေးသေ။
၁၆၇။ အဖိုးရ၊ အဖပင်ရောင်းသည်။
၁၆၈။ အဖျားတက်၊ အမှည့်စားရနိုး။
၁၆၉။ အမကောင်းစား၊ မောင် မြင်းတလူလူ။
၁၇၀။ အမိကောင်း သား၊ မယားကောင်း လင်။
၁၇၁။ အမိကိုရှိသေမှ၊ အမျိုးကို ရှိသေသည်။
၁၇၂။ အမိထဘီ၊ သားလှစ်။
၁၇၃။ အမိမဲ့သား၊ ရေနည်းငါး။
၁၇၄။ အမိလည်းရ၊ နှစ်မလည်းမည်၊ ကျွန်ရာတည်။
၁၇၅။ အမူလွန်၍ မယူကျွန်သည်။
၁၇၆။ အမေကျော်၍ ထွေးတော်လွမ်း။
၁၇၇။ အမေမှာ မှာသည့်အတိုင်း။
၁၇၈။ အမေမှာသည့်ဆန်တခွဲ၊ သုံးစိတ်နှင့်မလဲ။
၁၇၉။ အမေသေမှ နို့စို့ရ။
၁၈၀။ အမေးကျွဲကျောင်း၊ အဖြေဘုရားလောင်း။
၁၈၁။ အမေးရှိမှ၊ အဖြေရှိ။
၁၈၂။ အမယ့်မြင်ငိုချင်၊ ပဲလဝါမြင်ရယ်ချင်။

၁၈၃။ အမယ်မှန်မှ ဘသား။
၁၈၄။ အမဲရှိးနှယ်၊ ဟင်းအိုးမှ အားမနာ။
၁၈၅။ အမိတ်ကပြော၊ အိတ်ထောင့်ကနာ။
၁၈၆။ အမျှားမိုးခါးရေသောက်လျှင်၊ သောက်တမ်း။
၁၈၇။ အများညီက ဤကိုကျွဲဖတ်။
၁၈၈။ အမျိုးကောင်းသား၊ ပညာများ၊ ကြီးပွားချင်လျက်၊ မာနဖျက်။
၁၈၉။ အမျိုးကောင်း၏၊ အကျင့်တန်သည်။
၁၉၀။ အမျိုးထိ၊ မချိအောင်နာ။
၁၉၁။ အမျိုးမစစ်၊ အမြစ်မတွယ်။
၁၉၂။ အမျိုးမှန်မှ၊ အရိုးကြံသည်။
၁၉၃။ အမျိုးရင်းကို အမျိုးမတော်ချင်။
၁၉၄။ အမျက်ကြီးက၊ ပျက်စီး။
၁၉၅။ အမြုတေကောင်းရှိရာ၊ အမြုတေစု။
၁၉၆။ အမြင်ဆိုးလည်း၊ အမျိုးနန်းတွင်းသူ။
၁၉၇။ အမြင်နီးလျက် ခရီးဝေးသည့်တောင်။
၁၉၈။ အမြင်ဖြူလည်း၊ အသွင်တူမှ။
၁၉၉။ အမြင်မတော်၊ ဆင်တော်နှင့်ခလောက်။
၂၀၀။ အမြင်များလျှင် တင်စားသည်။
၂၀၁။ အမြင်သန်၊ ဉာဏ်ခေါင်မိုး။
၂၀၂။ အမြင့်တက်လျှင် အကျနာသည်။
၂၀၃။ အမြင့်မှာ နိဗ္ဗာန်၊ အလုပ်မှာ ပညာဉာဏ်။
၂၀၄။ အမြစ်ကို လျှောက်၍ နွယ်သည်၊ အပြစ်ကို ကြောက်၍ ကွယ်သည်။
၂၀၅။ အမြစ်ရင်းထက်၊ အခက်မဝေရာ။
၂၀၆။ အမှားမြင်၊ အလျှင်ဖုံး။
၂၀၇။ အမှီမရှိလျှင်၊ ဘုရားတောင်မပွင့်။
၂၀၈။ အမှီကောင်းလျှင် တချက်၊ အနေကောင်းလျှင် တသက်။
၂၀၉။ အမှုကြီးသော်၊ အထီးကျန်။
၂၁၀။ အမှုတခု၊ ဂရုမပြု။
၂၁၁။ အမှုမရှိ၊ အမှုရှာ။
၂၁၂။ အမှုမည်သည်၊ အချည်မလွတ်။
၂၁၃။ အမှုလွန်သော်၊ ညွန်တွင်နစ်။

၂၁၄။ အမှုသည်မပါ၊ စကားမဆိုရာ။
၂၁၅။ အမှုသည်ရှောင်၊ ရှေ့ဆောင်ကိုဆွဲ။
၂၁၆။ အမှန်ရှုမှ၊ အမှုမြန်မည်။
၂၁၇။ အမှည့်တဝင်းဝင်း၊ အကင်းတပြိုက်ပြိုက်။
၂၁၈။ အမှိုက်ကစ ပြသာဒ်မီးလောင်။
၂၁၉။ အမှုက်မှေ့ မြေ့တွေ့၊ လူမိုက်စေ ရန်တွေ့။
၂၂၀။ အယုံအကြည်ရှိမှ အမှုကြီးသည်။
၂၂၁။ အရာမရောက်ဘဲ၊ နွားပြာခလောက်ဆွဲ။
၂၂၂။ အရှုံးက တမူးသာ။
၂၂၃။ အရှုံးကို ဗုံနှင့်မြှောက်။
၂၂၄။ အရှုံးချေးပန်း၊ တတန်းလန်း။
၂၂၅။ အရှုံးဆံပင်၊ မျှောက်မထွင်နိုင်။
၂၂၆။ အရှုံးဆယ်ခွန်းပြော၊ တခွန်းမှန်။
၂၂၇။ အရှုံး မီးဝိုင်း။
၂၂၈။ အရှုံးအမဲသားကျွေး၊ နွားမြင်တိုင်း လက်ညှိုးထိုး။
၂၂၉။ အရှုံးအရှုံးနှင့် အိမ်ဦးချေးယို။
၂၃၀။ အရှုံးရှုန်းရာ၊ မုံ့လုံးနှင့်ချေးခြောက်ပါ။
၂၃၁။ အရေးကောင်း ဒိန်းဒေါင်းဖျက်။
၂၃၂။ အရေးကြီး၊ သေးနီးရာချို။
၂၃၃။ အရေးကြုံ၊ သက်လုံကောင်းမှ။
၂၃၄။ အရေးထဲ၊ အရာပေါ်။
၂၃၅။ အရေးမရှိ နွားအဟန်၊ အရေးရှိ ကျားအဟန်။
၂၃၆။ အရေးရောက်တော့ ပြေးပေါက်ရှာ။
၂၃၇။ အရေးရှိမှ အရာရောက်သည်။
၂၃၈။ အရေးရှိမှ အရောင်ထွက်။
၂၃၉။ အရေးရှင်၊ အရေးဖျက်။
၂၄၀။ အရဲအရောင်ရှိ၏၊ မစူးစမ်း။
၂၄၁။ အရောဝင်၊ အရှိသေတန်။
၂၄၂။ အရံအကာရှိမှ ပြည့်စုံသည်။
၂၄၃။ အရှိသေကြီး၍ ဘုန်းကြီးကို မွန်းခေါ်။
၂၄၄။ အရှိသေကြီး၍ ယောက္ခမကြီး ဒေါ်ဒေါ်ခေါ်။

၂၄၅။ အရိုးကို အရွက်မဖုံးသင့်။
၂၄၆။ အရိုးပေါ် အရေတင်။
၂၄၇။ အရိုးမရှိ ပက်ကျိ။
၂၄၈။ အရိုးမြင် အသားဖုံး။
၂၄၉။ အရက်မူး ကျွဲခိုးပေါ်။
၂၅၀။ အရင်းစစ်၊ အမြစ်မြေကျ။
၂၅၁။ အရင်းမစိုက်၊ လှေထိုးလိုက်။
၂၅၂။ အရင်းမရှိဘဲ ဗွေဆော်ထိုး။
၂၅၃။ အရင်းလဲ၊ အဖျားထင်းဖြစ်။
၂၅၄။ အရစ်မတတ်ချောင်း၊ အထစ်မတတ်စောင်း။
၂၅၅။ အရည်စုပ်ပွဲမှာ၊ အရည်လှန်။
၂၅၆။ အရပ်ကို ချစ်စေလိုသော် ပေးကမ်း။
၂၅၇။ အရပ်ကောင်းမှ အလောင်းလှ။
၂၅၈။ အရပ်မှန်းက စုန်းရှိုး။
၂၅၉။ အရပ်ရှိလျှင် အရိပ်ထွက်မြဲ။
၂၆၀။ အရပ်အိုးကို၊ ရေအိုးလုပ်။
၂၆၁။ အရိပ်ခိုခို၊ အခက်ချိုးချိုး။
၂၆၂။ အရိပ်လာမှာ၊ နေပူကစောင့်။
၂၆၃။ အရိပ်ဝင် အပင်မချိုးနှင့်၊ အဆိပ်မြင် အရှင်မတိုးနှင့်။
၂၆၄။ အရိပ်သုံးပါး နားမလည်၊ ချေသူငယ် ကျွားစာဖြစ်။
၂၆၅။ အရိပ်အခြည်ကိုသိ၍၊ မပြောတတ်။
၂၆၆။ အရောက်အလာရှိမှ အကျွမ်းဝင်သည်။
၂၆၇။ အရောင်းတတ်မှ အမြတ်ပါ။
၂၆၈။ အရောင်းသာမှ အဝယ်လာ။
၂၆၉။ အရှက်နှင့်လူလုပ်သည်၊ အသက်နှင့်လူမလုပ်။
၂၇၀။ အရှင်ပေးသည့်စပါး၊ မစားရက်၊ ခြတက်။
၂၇၁။ အရှင်ပင် ကြီးသော်လည်း၊ အချီးအမြှင့် မရှိက မရှိသေ။
၂၇၂။ အရှင်ဘုန်းကြီး၊ ကျွန်မားပြီး။
၂၇၃။ အရှင်မဲ့ကျွန်၊ ထွန်မဲ့နွား။
၂၇၄။ အရှင်မျက်၊ ဆွေခုနစ်ဆက်ပျက်။
၂၇၅။ အရှင်မြင့်၊ ကျွန်တင့်။

၂၇၆။ အရှင်မွေး နေ့ချင်းကြီး။
၂၇၇။ အရှင်သုံး၊ ဓားမတုံးထက်။
၂၇၈။ အရှင့်အာဏာ၊ ကျွန်မှာတည်။
၂၇၉။ အရိုင်းမျိုး၊ တောတောင်ကိုကိုး။
၂၈၀။ အလကားရတဲ့နွား၊ သွားဖြဲမကြည့်နှင့်။
၂၈၁။ အလာကောင်းသော်လည်း၊ အခါနှောင်းသည်။
၂၈၂။ အလာရှိမှ၊ အသွားရှိ။
၂၈၃။ အလံမရှိသောရထား၊ အသွားမရှိသောလှံ။
၂၈၄။ အလိုကြီးသော် အရနည်းသည်။
၂၈၅။ အလိုနည်းသော် အရသည်းသည်။
၂၈၆။ အလိုရှိခိုက် ပေါင်းမှ မိတ်ကောင်းမှန်းသိရ။
၂၈၇။ အလိမ္မာ စာမှာရှိ။
၂၈၈။ အလိမ္မာလွန်၍ ကြက်တွန်နဲ့တက်။
၂၈၉။ အလုပ်တူ ဌြူစူ၊ အကြံတူ ရန်သူ။
၂၉၀။ အလုပ်မရှိက အလုပ်ရှာ။
၂၉၁။ အလုပ်မရှိ၊ မယ်သီလရှင်ဖင်၊ ယင်ခြောက်။
၂၉၂။ အလောင်းမှန်၊ ရထားဆိုက်။
၂၉၃။ အလိုက်ကောင်းတော့၊ ခေါင်းလောင်းနှင့်ခလောက် လဲနိုင်သည်။
၂၉၄။ အလိုက်မသိ အားမနာ။
၂၉၅။ အလျှော်မြင်၊ အစဉ်ပြန်စေ။
၂၉၆။ အလျှောက်ကောင်း၊ အထောင်းသက်သာ။
၂၉၇။ အလျင်စားဖါး၊ နောက်စားမှ ကျား။
၂၉၈။ အလျင်ဘုန်းကြီး တချက်ခေါက်၊ နောက်ဘုန်းကြီး နှစ်ချက်ခေါက်။
၂၉၉။ အလျင်လာ၊ အသာရ။
၃၀၀။ အလျင်လို၊ လမ်းအိုလိုက်။
၃၀၁။ အလျင်လို၊ အနှေးတွေ့။
၃၀၂။ အလွမ်းလာ၊ အနာနှင့်ဆို့။
၃၀၃။ အလှနှစ်ဖက်၊ ရွှေချည်ရက်။
၃၀၄။ အလှအရေကြို့မသောက်ရ။
၃၀၅။ အလှူ့ရဲ၊ ဝေသန္တရာ။
၃၀၆။ အလှူ့ရှင်ငါးကျော်အိုး၊ ဆွေမျိုးတွေဝိုင်း။

၁၀၇။ အလှူရှင်မှန်းသိအောင် မဏ္ဍပ်တိုင်ဖက်တက်။
၁၀၈။ အလှည့်ကျ နွားမပင်မနေသာ။
၁၀၉။ အလှမ်းကျယ် အလယ်လပ်။
၁၁၀။ အလှမ်းတွင်၊ တာရောက်။
၁၁၁။ အဝဝနှင့် မားမကိုပေါင်ရ။
၁၁၂။ အဝါကြီးလျှင်၊ အဝက်တင်။
၁၁၃။ အဝိအဝါများက လူရှုံး။
၁၁၄။ အဝေတတ်၊ မြတ်သည်။
၁၁၅။ အဝေမတတ်၊ ဆရာငတ်သည်။
၁၁၆။ အဝေးကရှောင်မှ ကင်းငြိမ်းရာသည်။
၁၁၇။ အဝင်လွယ်လျက် အထွက်ခက်။
၁၁၈။ အဝတ်ပင်မွဲသော်လည်း၊ ပွဲတိုးလှသည်။
၁၁၉။ အဝတ်မရှိ၊ လူမရှိသေ။
၁၂၀။ အဝတ်လွန်သော် ဣဏာ။
၁၂၁။ အသာလင့်၊ အသင့်ရ။
၁၂၂။ အသာအယာဆိုမှ၊ လူနှစ်လိုသည်။
၁၂၃။ အသားထဲက လောက်ထွက်။
၁၂၄။ အသားမဲလျက် အဆင်ခက်။
၁၂၅။ အသားမဲ၊ အရဲဆင်။
၁၂၆။ အသားလို၍ အရိုးတောင်းသည်။
၁၂၇။ အသိကောက်လျက် အဝင်နက်။
၁၂၈။ အသိမလုပ်၊ အလုပ်မသိ။
၁၂၉။ အသီးကြွေ အပင်အောက်၊ အထီးလေ အမနောက်။
၁၃၀။ အသီးတရာ အညှာတခု။
၁၃၁။ အသီးလို အပင်ချိုင်၊ သမီးလို ဖခင်တိုင်။
၁၃၂။ အသီး သရက်၊ အသား ဝက်၊ အရွက် လက်ဖက်၊ အမွှေး ကရမက်။
၁၃၃။ အသီးသေးလျက် အပင်ကြီးသည့်ညောင်။
၁၃၄။ အသေစော၊ နှမြော။
၁၃၅။ အသဲနှစ်မှ၊ အစွဲချစ်သည်။
၁၃၆။ အ သောသူက တေးဆိုချင်။
၁၃၇။ အသံကြား သနား၊ မျက်နှာမြင် ချစ်ခင်။

၃၃၈။ အသံကြောင့်၊ ဖားသေ။
၃၃၉။ အသံမှာတော်သား၊ အဆိုက ကြွား။
၃၄၀။ အသံသာရှိ၊ အဆန်မရှိ။
၃၄၁။ အသက်တရာ မနေရ၊ အမှုတရာတွေ့ရ။
၃၄၂။ အသက်နှင့်လူမလုပ်၊ အရှက်နှင့်လူလုပ်သည်။
၃၄၃။ အသက်ရှည်၍ ဘုန်းမကြီး၊ ဘုန်းကြီး၍ အသက်မရှည်။
၃၄၄။ အသက်မသေ ငွေမရှား။
၃၄၅။ အသက်မွေးမှု၊ တခုပညာ၊ ကိုယ်စီပါမှ။
၃၄၆။ အသင်အကြားရှိမှ မှတ်သားမိမည်။
၃၄၇။ အသစ်ဘယ်လိုကောင်းစေ၊ အဟောင်းကိုချည့် တလည်လည်။
၃၄၈။ အသစ်လို အဟောင်းစွန့်။
၃၄၉။ အသုံးတတ်မှ၊ အဖတ်တင်။
၃၅၀။ အသုံးလွန်သော် ဒါသ။
၃၅၁။ အသွားကောင်းလျက်၊ တင်ဆုံဖျက်။
၃၅၂။ အသွားတကွဲ၊ အပြန်တခွဲ။
၃၅၃။ အသွားတတိုင်ရှိ၊ အပြန်တတိုင်ရှိ။
၃၅၄။ အသွားမတော်တလှမ်း၊ အစားမတော်တလုပ်။
၃၅၅။ အသွားယဉ်၊ ဆင်မလှမ်းဟန်။
၃၅၆။ အသွားရှိမှ အလာရှိ။
၃၅၇။ အသွေးမြင် အသွင်သိ။
၃၅၈။ အသွေးယူသော်လည်း ဆေးတူမှဖြစ်။
၃၅၉။ အသွေးအဆင်းလှ၏ အကျင့်မကောင်း။
၃၆၀။ အသွင်တူမှ အိမ်သူဖြစ်။
၃၆၁။ အသွင်မတူ အိမ်သူမဖြစ်။
၃၆၂။ အဟုတ်ပြော မဟုတ်မှတ်၊ မဟုတ်ပြော အဟုတ်မှတ်။
၃၆၃။ အအေးရှိရာ၊ အပူလာ။
၃၆၄။ အအိပ်လွန်သော် မောဟ။
၃၆၅။ အာကာနံတဲ့ကြောင်ချေး။
၃၆၆။ အားနာလျှင် အားပါသည်။
၃၆၇။ အားမတန် မာန်လျှော့။
၃၆၈။ အားမရှိဘဲ ဆားလျက်ချင်၊ ရင်ဆာ။

၃၆၉။ ဣတိပိသောနှင့် တဝါဆို။
၃၇၀။ အီးလဲမနမ်းချင်၊ ကိုင်းလဲမထမ်းချင်။
၃၇၁။ ဥချစ်မှ၊ မ ချစ်သည်။
၃၇၂။ ဥတုသုံးပါး၊ လည်တိုင်းစား။
၃၇၃။ ဥပါဒါန်ကြောင့် ဥပါဒ်ရောက်။
၃၇၄။ ဥပန်းယောင်ယောင်၊ ဖေါင်းယောင်ယောင်။
၃၇၅။ ဥမကွဲ သိုက်မပျက်။
၃၇၆။ ဥစ္စာကံစောင့်၊ အသက်ဉာဏ်စောင့်။
၃၇၇။ ဥစ္စာကံပေး မရသေး၊ နှောင့်နေးမျှောပါ၊ မရှိရာ။
၃၇၈။ ဥစ္စာပျောက်၊ ငရဲရောက်။
၃၇၉။ ဥစ္စာမရှိ၊ ကတိမတည်။
၃၈၀။ ဥစ္စာမရှိ မခင်၊ ဥစ္စာရှိ သခင်။
၃၈၁။ ဥစ္စာရှိ၏၊ မလှူ။
၃၈၂။ ဥစ္စာရှင်ထက်၊ သူခိုးနှမြော။
၃၈၃။ ဥစ္စာလိုသော် မပျင်းနှင့်။
၃၈၄။ ဉုံမပါ၊ ဂါထာမစွမ်း။
၃၈၅။ ဥစ္စာလျှင်လို ဥစ္စာလျှင်ခဲ။
၃၈၆။ ဥစ္စာဟူသည် မျက်လှည့်မျိုး၊ ပညာဟူသည် မြတ်ရွှေအိုး။
၃၈၇။ ဥသျှစ်တတင်း၊ နှမ်းတတင်း။
၃၈၈။ ဦမတောင့်မှ သီလစောင့်နိုင်သည်။
၃၈၉။ ဦးကစပါးပဲ့ပြောင်း၊ ပဲ့ကစပါးဦးပြောင်း။
၃၉၀။ ဦးစီးမနိုင်၊ ပဲ့စီးမနိုင်။
၃၉၁။ ဦးစွပ်ပက္က၊ မလုပ်ရ။
၃၉၂။ ဦးဆွေးဆံမြွေ၊ မှုထမ်းစေ့။
၃၉၃။ ဧဧလိုလို့ တရားနာ၊ ပုဇာစကစ၍ပေါ။
၃၉၄။ ဧသူကို၊ ရေခဲကူ။
၃၉၅။ ဧအေတူ၊ ပူအမျှ။
၃၉၆။ ဧည့်သည်ကောင်း၊ အိမ်သည်မတန်။
၃၉၇။ ဧည့်သည် ညဥ့်နက်၊ အိမ်သည်ခက်။
၃၉၈။ အိုကာမှ ငွေတရာ။
၃၉၉။ အိုဘူးမှ ပျိုဘူး။

၄၀၀။ အိုးကမပူ၊ စလောင်းကပူ။
၄၀၁။ အိုးကားမပူ၊ ပန်းကန်ပူ။
၄၀၂။ အိုးကောင်း စိမ့်သည်။
၄၀၃။ အိုးကောင်းလို နာနာခတ်။
၄၀၄။ အိုးကွဲမှာ ရေမလုံ။
၄၀၅။ အိုးကွဲချိပ်ဖာ၊ ချိပ်ဘိုးသာ။
၄၀၆။ အိုးချင်းထား အိုးချင်းထိ၊ ကြိုးချင်းထား ကြိုးချင်းငြိ။
၄၀၇။ အိုးတော်လုပ် ဖုတ်ရင်းက မကျက်။
၄၀၈။ အိုးတန်ဆန်ခတ်၊ ဆီပွတ်ကျည်ပွေ့။
၄၀၉။ အိုးနှင့်ဆန် တန်ရုံရမည်။
၄၁၀။ အိုးမလုံ အုံ့ပွင့်။
၄၁၁။ အိုးရှဲ့ စလောင်းရှဲ့နှင့်ဖုံး။
၄၁၂။ အိုးလှေ့ မိကျောင်းတက်။
၄၁၃။ အိုးသည် အိုးကောင်း မကိုင်ရ။
၄၁၄။ အစ်ကိုကြီး အဖအရာ၊ အစ်မကြီး အမိအရာ။
၄၁၅။ အစ်ကိုထင် လင်သေလို့မှ မနေရ။
၄၁၆။ အတွေ့ဆို အနက်သိ။
၄၁၇။ အပ်ကြောင်းမှာ အပ်တံပါ။
၄၁၈။ အပ်ဖင် ချည်မျှင်တန်းလန်း။
၄၁၉။ အပ်ဝင်၍ ပုဆိန်ထွက်။
၄၂၀။ အပ်သွားရာ ချည်ပါ။
၄၂၁။ အပ် ဦးပဲ့ထမ်းသည်။
၄၂၂။ အိတ်စုတ်မီးလောင် ရှိတာပြောင်။
၄၂၃။ အိတ်ပေါက်နှင့် ဖားကောက်။
၄၂၄။ အိပ်ပျော်သူထက်၊ အိပ်ဟန်ဆောင်သူ အနှိုးခက်။
၄၂၅။ အိပ်လို့သာမပျော်၊ ဆင်အော်လို့မနိုး။
၄၂၆။ အိပ်ရပါ ငိုက်တာလောက်မှ မကောင်း။
၄၂၇။ အိပ်ရေးနိုးသော် အကြံပေါ်။
၄၂၈။ အိမ်ခြေတရာ၊ ပြည်စိုးအစိတ်။
၄၂၉။ အိမ်ထောင်မှုဘုရားတည်၊ ဆေးမှင်ရည်စုတ်ထိုး။
၄၃၀။ အိမ်ထောင်လူပြု၊ အမှုတရာ။

၄၃၁။ အိမ်နီးချင်းချေးပုံ ထင်စား၍ဝက်မွေး။
၄၃၂။ အိမ်နီးချင်းမြင်ပြင်းလျှင်၊ မြင်းဝယ်ခိုင်း။
၄၃၃။ အိမ်နီးချင်း ရှိသေအောင် ရှံးတက်။
၄၃၄။ အိမ်မိုးချင်းထပ်၊ ရပ်ကွက်တူနေ။
၄၃၅။ အိမ်မည်ကာ ဧည့်မရောက်။
၄၃၆။ အိမ်ရှေ့ပူ၊ အိမ်နောက် မချမ်းသာ။
၄၃၇။ အိမ်ရှင်ကို ဧည့်မောင်း၊ လယ်ရှင်ကို မျှောက်မောင်း။
၄၃၈။ အိမ်သာဟောင်းပျက်၊ အပြင်ခက်။
၄၃၉။ အိမ်သာ ဧည့်ရောက်၊ ကန်သာ ကြာပေါက်။
၄၄၀။ အိမ်လာ၊ ယာဆုတ်။
၄၄၁။ အိမ်အိုနှင့်ကြမ်းပြင်၊ ဝင်ချင်ဝင်။
၄၄၂။ အိမ်အိုမှ ကျားကန်။
၄၄၃။ အိမ်အိုမှ စဖိုထုတ်။
၄၄၄။ အိမ်အိုလျှင် ကျားကန်၊ လူအိုလျှင် ပန်းပန်။
၄၄၅။ အုတ်ကြား မြက်ပေါက်။
၄၄၆။ အုတ်မရှိ၍ မြို့ရိုးမတည်။
၄၄၇။ အုတ်အရောရော၊ ကျောက်အရောရော။
၄၄၈။ အုပ်မှလုံ၊ ယုံမှနှင်းသည်။
၄၄၉။ အုံ့ပုန်းပူ လူမသိ။
၄၅၀။ အောက်ကလဲနေ၊ ဟာရီးလဲမလျှော့။
၄၅၁။ အောက်ကသာနေ၊ မှတ်ပြီလား မေး။
၄၅၂။ အောင်ဘို့ပြင်၊ အောင်မြင်မြဲ။
၄၅၃။ အောင့်နိုင်အကျိုးရှိ၊ စောင့်နိုင်သူခိုးမိ။
၄၅၄။ အိုက်တာနှင့် ရေတွင်းထဲကျတာ အဆင့်သင့်။
၄၅၅။ အိုင်ကောင်းလျှင် စမ်းစိမ့်သည်။
၄၅၆။ အိုင်တွေ့တိုင်း ခြေဆေး။
၄၅၇။ အိုင်တွေ့လို့မှမလူး၊ ကျွဲရှူး။
၄၅၈။ အိုင်ထက် လိပ်ကပို။
၄၅၉။ အိုင်မည်ကာ ကြာမပေါက်။
၄၆၀။ အိုင်မှန်မှ ကြာပေါက်။

—॥—